# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၇၃/၂၀၀၇ ။ ၂၀၀၇ ခုနှစ်၊ မတ် လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးညိုမင်းဦး

(ခ) အဘအမည် ဦးညိုမောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မဂတ(နိုင်)၀၅၇၃၇၄

(ဃ) နေရပ်လိပ်စာ အမှတ်(၄၄)၊ ဗဟန်း(၂)လမ်း၊ မြို့မရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ ။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မာကျူရီ ရေး(စ်) မင်ချူဖက်ချာရင်း ကုမ္ပဏီလီမိတက် (Mercury Rays ManuFacturing Co,Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုနယ်မြေ၊ အမှတ်(၃)လမ်းမကြီး၊ အကွက်အမှတ်(၃၉)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၄၅၆.၁၂ သန်း (ကျပ်လေးရာငါးဆယ့်ခြောက်သန်း၊ တစ်သိန်းနှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၀ /၂၀၀၈ (မနသ)

ရန်ကုန်မြို့ ၊ ၁၃၆၉ ခုနှစ် ၊ တပေါင်း လဆန်း ၇ ရက်

(၂၀၀၈ ခုနှစ်၊ မတ် လ ၁၃ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မာကျူရီရေး(စ်)မင်နျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.) သည် အကွက်အမှတ် (၃၉)၊ အမှတ်(၃) လမ်းမကြီး၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ရန်ကုန်တိုင်းရှိ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်ပိုင်မြေ (၉၇၈၉) စတုရန်းမီတာ အနက် (၃၃၀၀) စတုရန်းမီတာရှိ မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၄၀/၂၀၀၇) (၂၄-၁၀-၂၀၀၇)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၀၈) (၂၃-၁-၂၀၀၈) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ ( ၉ /၂၀၀၈ ) ( ၂၈ - ၂ -၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မာကျူရီရေး(စ်)မင်နျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.) အား CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ (Kitchen Wares)ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၈၃ /၂၀၀၈ ကို ထုတ်ပေးလိုက်သည်။

၂။ မာကျူရီရေး(စ်)မင်နျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.)အနေဖြင့်ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုလိုက် သည်။

၃။ မာကျူရီရေး(စ်)မင်နျူဖက်ချာရင်းကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင်မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၆။ မာကျူရီရေး(စ်)မင်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd.)သည် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်နှင့် ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဥ်း၊ စည်းကမ်းများ အတိုင်း လိုက်နာဆောင် ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦကို အငှားချထားသူ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်နှင့် အငှားချထားခြင်းခံရသူ မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ လည်းကောင်း၊ မိတ္တူ (၃)စောင်ကို ရှေ့နေချုပ်ရုံးသို့ လည်းကောင်း <u>မပျက်မကွက်</u> ပေးပို့တင်ပြရမည်။

၈။ မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉) ၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက် တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရ မည်။

၉။ မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။ယင်းသို့ဆောင်ရွက်ထားရှိမှုအခြေအနေကိုဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင် ခံရမည်။

၁၀။ (၂၃-၁-၂၀၀၈)နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒကောင်စီ၏(၄/၂၀၀၈) အစည်းအဝေး မှ လမ်းညွှန်ချက်အရ ကုန်ကြမ်း တင်သွင်းခြင်း၊ ကုန်ချော တင်ပို့ခြင်း ကိုက်ညီမှု ရှိစေရန်၊ Reject

များကိုပြည်တွင်း၌ ရောင်းချမှုမပြုရန်နှင့် မသမာမှုများ ပေါ်ပေါက်ပါက အဆိုပါ လုပ်ငန်းအား ချက်ချင်းပိတ်သိမ်းခံရမည်ကိုသိရှိပါကြောင်းမာကျူရီရေး(စ်) မင်းချုံဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) မှ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်၏ ရှေ့မှောက်တွင် ဝန်ခံ ကတိပြုထားသည့် အတိုင်း သိရှိလိုက်နာ ဆောင်ရွက်ရမည်။

၁၁။ မာကျူရီရေး(စ်) မင်းချုံဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၂။ မာကျူရီရေး(စ်) မင်းချုံဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မာကျူရီရေး(စ်) မင်းချုံဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က) /မ- ၉၈၈/၂၀၀၈( ၅ ၁၉ ၃ )
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ မတ် လ ၁၃ ရက်။
ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၈။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ စစ်ဆေးရေး ဆပ်ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၈။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၉။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၃၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၃၁။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၃၂။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မာကျူရီရေး(စ်) မင်န်ျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊ ဇန်နဝါရီလ(၂၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၀၈) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၁ | ၆၉၂ | (ခ) အထက်ပါသတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်အတွက် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ သေသေချာချာကြီးကြပ်စိစစ်မှုများပြုလုပ်ရန်။<br>(ဂ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန်။<br>(ဃ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ်........
ရက်စွဲ ၂၀-၁-၀၀
ကုန်သွယ်မှုမူဝါဒကောင်စီ

လျှို့ဝှက်

kko /sk 28-1-2008

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၄၂/၂၀၀၈( ၃၈၉၉)

ရက်စွဲ ၊ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော မြေနှင့် အဆောက်အဦကို မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd)မှ ငှားရမ်းပြီး CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd)သည် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက် ထံမှ အကွက်အမှတ်(၃၉) အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၉၇၈၉)စတုရန်းမီတာ အနက် (၃၃၀၀)စတုရန်းမီတာရှိ မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ ကို ငှားရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက် မှ တစ်ဆင့် အဆိုပြုတင်ပြလာပါသည်။ အဆိုပြုချက်နှင့်အတူ မြေနှင့် အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) ဖြင့်တင်ပြအပ်ပါသည်။

၂။ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက် နှင့် မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြေငှားရမ်းကာလမှာ ကနဦး(၁၀)နှစ် နှင့် တစ်ကြိမ်လျှင်(၂)နှစ်စီဖြင့် (၃) ကြိမ် သက်တမ်း တိုးမြှင့်နိုင်သည်။

(ခ) နှစ်စဉ်ငှားရမ်းခကျပ်(၂၂.၀၂)သန်းကို တစ်နှစ်လျှင် (၆)လ (၂)ကြိမ်ခွဲ၍ ကြိုတင် ပေးသွင်း ရမည်။

(ဂ) စာချုပ် လက်မှတ် ရေးထိုးသည့် နေ့ရက်မှ (၃၀)ရက် အတွင်း (၆)လ အတွက် ငှားရမ်းခ ကျသင့်ငွေကျပ် (၁၁.၀၁)သန်းကို ကြိုတင်ပေးသွင်းရမည်။

(ဃ) ကျန်ငှားရမ်းကာလများအတွက် နှစ်စဉ်(၆)လ ပြည့်ပြီးတိုင်း (၃၀) ရက် အတွင်း နောက်(၆)လအတွက် ငှားရမ်းခကို မပျက်မကွက်ကြိုတင်ပေးသွင်းရမည်။

(c) ငှားရမ်းကာလ ပြည့်သောနေ့ (သက်တမ်းတိုး ကာလ အပါအဝင်)တွင် မရွေ့မပြောင်း နိုင်သော ပစ္စည်းများ နှင့် ဆက်စပ်လျှက် ရှိသော ပစ္စည်း အားလုံးကို " အငှား ချထားခြင်းခံရသူ" က " အငှားချထားသူ" သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၄၅၆.၁၂)သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများကို သိဒ္ဓိစံကုမ္ပဏီလီမိတက်ထံမှ ဝယ်ယူပြီးဖြစ်ကြောင်းနှင့် ဝယ်ယူရန် ကျန်ရှိသော စက်ပစ္စည်းများကို ထွန်းသစ်စနေမင်း အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက်ထံမှ ဝယ်ယူ မည်ဖြစ်ကြောင်း အရောင်းအဝယ်စာချုပ်တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့်မီးဖိုချောင်သုံးပစ္စည်းများကို CMP စနစ်အရ ပြည်ပသို့(၁၀၀)ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပါသည်။ CMP စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်မည့် ကိုရီးယားသမ္မတနိုင်ငံရှိ Daeho International Corp သည် တရားဝင်မှတ်ပုံတင် တည်ထောင်ထားကြောင်း Certificate of Business Registration နှင့် ကုမ္ပဏီ၏ Balance Sheet မိတ္တူများပူးတွဲ၍ ဆိုးလ်မြို့ရှိ မြန်မာသံရုံးမှ စိစစ်ပြန်ကြားလာပါသည်။

၅။ လုပ်ငန်းမှ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| အမှတ်စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု ခုရေ (ထောင်ပေါင်း) |
|---|---|---|
| ၁ | Fry pan | ၁၈၉၀ |
| ၂ | Wok Pan | ၇၅၆ |
| ၃ | Sauce Pot | ၁၈၉၀ |
| ၄ | Buffet Casserole | ၃၇၈ |
| ၅ | Bowl | ၇၅၆ |
| ၆ | Steel Kettle | ၆၇၃၆ |
| ၇ | Steel Steamer One body | ၃၇၈ |
| ၈ | Steel Steamer Two body | ၃၇၈ |
| ၉ | Steel Food Carrier | ၁၁၃၄ |
| ၁၀ | Steel Juice Presser | ၁၈၉ |
| ၁၁ | Steel Vacuum Flask | ၃၀၂၄ |
| ၁၂ | Steel Car Adaptor Flask | ၂၂၆၈ |

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | အမေရိကန်ဒေါ်လာ (သန်း) |
|---|---|
| (က) ဝင်ငွေခွန် | ၁.၀၉ |
| (ခ) CMP လက်ခရငွေအပေါ် ၁၀% ဖြတ်တောက်ရရှိမှု | ၀.၈၁ |

၇။ လုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၂၅၀)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်သူ (၄)ဦးအား အချိန်ပိုင်း အလှည့်ကျ ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး အတွက် လိုအပ်ချက်များ စီစဉ်ဆောင်ရွက်ပေးမည် ဖြစ်ကြောင်းတင်ပြထားပါသည်။

၈။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ လုပ်ငန်းအတွက်လိုအပ်သော လျှပ်စစ် ဓါတ်အားကို ဖြန့်ဖြူးပေးနိုင်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။
- အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ Mercury Rays Manufacturing Co., Ltd အနေဖြင့် ကုန်ချော ပစ္စည်းများ အားလုံး နီးပါး ပြည်ပသို့ တင်ပို့ ရောင်းချ လျှင် ကန့်ကွက် ရန်မရှိပါကြောင်းနှင့် Reject ကို ပြည်တွင်း၌ ပြန်လည် ရောင်းချလျှင် Food Grade ဖြစ်ရန်လိုကြောင်း သဘောထား ပြန်ကြားထားပါသည်။
  (လုပ်ငန်းမှ CMP စနစ်ဖြင့် ထုတ်လုပ်မည့် မီးဖိုချောင်သုံးပစ္စည်းများကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပြီး ပြည်တွင်းတွင် လုံးဝရောင်းချမည်မဟုတ်ကြောင်း ကုမ္ပဏီ မှ ဝန်ခံကတိပြုထားပါသည်။)
- CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ Mercury Rays Manufacturing Co.,Ltd အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ဆောင်ရွက်ထားခြင်း မရှိ သေးကြောင်း၊ ကုန်ချောပစ္စည်း အမျိုးအစား တစ်မျိုးချင်းအတွက် ကုန်ကြမ်း အသုံး ပြုမှုကို စစ်ဆေးရေးအဖွဲ့၏ ညှိနှိုင်းချက်အရ ပြင်ဆင် တင်ပြချက်မှာ သင့်လျော်မှု ရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်း တင်ပြထားမှုသည် ဆီလျော်မှု ရှိကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း၊ သဘောထားပြန်ကြားထားပါသည်။
- စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ အဆိုပါကုမ္ပဏီ၏ ကုန်ကြမ်း ပစ္စည်း တင်သွင်းခြင်းနှင့်ကုန်ချောပစ္စည်းများပြန်လည် တင်ပို့ခြင်းနှင့် ပတ်သက်၍ ကုန်သွယ်ရေး ရှုဒေါင့် မှ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြား ထားပါ သည်။

- အကောက်ခွန်ဦးစီးဌာနမှစက်ပစ္စည်းများအတွက် သွင်းကုန်ခွန်ကျပ်(၀.၅၃)သိန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၈.၈၉) သိန်းတို့ ပေးဆောင်တင်သွင်းခဲ့ကြောင်း စိစစ်ပြန်ကြားထားပါသည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် တင်ပြစဉ်က ငွေကြေးအထောက်အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် သမဝါယမဘဏ် လီမိတက်ရှိ လက်ကျန်ငွေ ကျပ်(၂၀၀.၀၀) သန်း တင်ပြထား ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ CMP စနစ် ဆောင်ရွက်မှုအတွက် ရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီး မြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေး နှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေး ဦးစီးဌာနတွင် မှတ်ပုံတင် ထားရှိမည်ဖြစ်ပါကြောင်း၊ လုပ်ငန်း အသစ်၊ စက်ပစ္စည်းအသစ် ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် ကုန်ပစ္စည်းများ တင်သွင်း/တင်ပို့ရာတွင် ရေကြောင်းခရီး/လေကြောင်း ခရီးတို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ ဥပဒေ ပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်း စတင်သောနှစ် အပါအဝင် တဆက်တည်း(၃)နှစ်အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရမည် ဖြစ်ပါသည်။

၁၂။ ယင်း အဆိုပြုချက် နှင့် စပ်လျဉ်း၍ ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ ( ၄/၂၀၀၈ ) (၂၃-၁-၂၀၀၈) အစည်းအဝေးမှ အောက်ပါအတိုင်းလမ်းညွှန်ခဲ့ပါသည်။

(က) အဆိုပြု တင်ပြသည့် လုပ်ငန်းကို အောက်ပါ သတ်မှတ်ချက်များ ထည့်သွင်းဖော်ပြ လျှောက်ဆောင်ရွက်ခွင့်ပြုပါရန် ၊

(၁) ပြည်ပမှတင်သွင်းမည့် Raw Material များ ( အပျက်အစီးအတွက် အပိုဆောင်းသည့် ပမာဏ မှ လွဲ၍ ) ဖြင့် ထုတ်လုပ်သည့် ကုန်ချောပစ္စည်းအားလုံးကို ပြည်ပသို့ထုတ်ယူသွားစေရန်နှင့် Reject ပစ္စည်းများကိုလည်း ပြည်တွင်း၌ရောင်းချခွင့် မပြုရန်။

(၂) RawMaterialတင်သွင်းသည့်ပမာဏနှင့် ကုန်ချောပစ္စည်း ထုတ်လုပ် ပြီး ပြည်ပသို့တင်ပို့ သည့် ပမာဏတို့ ကိုက်ညီမှု ရှိ-မရှိကို မှတ်သားစိစစ်မှုများ ပြုလုပ်ရန်။

(၃) မသမာမှုများ ပေါ်ပေါက်ပါကချက်ချင်းပိတ်သိမ်းမည်ဖြစ်ကြောင်း အသိပေး စာချုပ်ချုပ်ဆိုထားရန် ။

(ခ) အထက်ပါ သတ်မှတ်ချက် များ အတိုင်း လိုက်နာ ဆောင်ရွက် ရန် အတွက် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင် လီမိတက်မှ သေသေချာချာ ကြီးကြပ် စိစစ်မှုများ ပြုလုပ်ရန်။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ် ခွင့်ပြုရန်။

(ဃ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။

၁၃။ အထက်ပါကုန်သွယ်မှုမူဝါဒကောင်စီ၏ လမ်းညွှန်ချက်အရ ကုန်ကြမ်းတင်သွင်းခြင်း၊ ကုန်ချောတင်ပို့ခြင်း ကိုက်ညီမှု ရှိစေရန်၊ Reject များကို ပြည်တွင်း၌ ရောင်းချမှု မပြုရန်နှင့် မသမာမှု များပေါ်ပေါက်ပါက အဆိုပါလုပ်ငန်းအား ချက်ချင်းပိတ်သိမ်းမည်ဖြစ်ကြောင်း ကုမ္ပဏီအားအသိပေး ၍ ဝန်ခံကတိ စာချုပ်ချုပ်ဆိုပြီးဖြစ်ကြောင်း ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက် မှ တင်ပြလာပါသည်။

၁၄။ <u>ဆုံးဖြတ်ရန်အချက်</u>

ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော မြေနှင့် အဆောက်အဦကို မာကျူရီရေး(စ်) မင်းချူ ဖက်ချားရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd) မှ ငှားရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ။

၁၅။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့</u>

## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မာကျူရီရေး(စ်) မင်န်ျူဖက်ချာရင်း ကုမ္ပဏီ လီမိတက် (Mercury Rays Manufacturing Co., Ltd) | ၁။ ဦးညိုမင်းဦး (အုပ်ချုပ်မှုဒါရိုက်တာ)<br>၂။ ဒေါ်တင်နွယ်ဝင်း (ဒါရိုက်တာ)<br>၃။ ဦးသန်းနိုင်ဦး (ဒါရိုက်တာ)<br>၄။ ဒေါ်ဝင့်မာတင့် (ဒါရိုက်တာ) | အမှတ်(၄၄)၊ ဗဟန်း (၂)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>အမှတ်(၄၄)၊ ဗဟန်း (၂)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>အမှတ် (၆၈၀/၆၉၄)၊ အထက်ပုဇွန်တောင် လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်။<br>အမှတ်(၂၇)၊ ရေကျော်လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်<br>ကုမ္ပဏီ၏ဖက်စ်အမှတ် | - ၆၃၈၃၁၀,၆၃၈၃၂၄,၇၂၁၄၀၇<br>- ၀၁-၆၆၃၇၇၅ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - မြေကွက်အမှတ်(၃၉)၊ အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - ဦးညိုမင်းဦး(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်း | - CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၁၁၅၉/၁၉၉၈-၁၉၉၉(၆-၁-၁၉၉၉) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - ၃၀-၆-၂၀၀၉ |
| ၇။ | ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် | - သမဝါယမဘဏ်လီမိတက်<br>၀၁၁၄၀၂၇၀၈၅ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ ခုနှစ်၊ ဇန်နဝါရီလ (၂၃) ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၀၈) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၁ | ၆၉၂ | (က) ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော မြေနှင့်အဆောက်အဦကို မာကျူရီရေး(စ်)မင်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd.) မှ ငှားရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ(Kitchen Wares)ထုတ်လုပ်ခြင်း လုပ်ငန်းကို အောက်ပါသတ်မှတ်ချက်များထည့်သွင်း ဖော်ပြလျက် ဆောင်ရွက်ခွင့်ပြုပါရန်။<br>(၁) ပြည်ပမှတင်သွင်းမည့် Raw Material များ (အပျက်အစီးအတွက် အပိုဆောင်းသည့် ပမာဏမှလွဲ၍)ဖြင့် ထုတ်လုပ်သည့် ကုန်ချောပစ္စည်းအားလုံးကို ပြည်ပသို့ ထုတ်ယူသွားစေရန်နှင့် Reject ပစ္စည်းများကိုလည်း ပြည်တွင်း၌ ရောင်းချခွင့် မပြုရန်။<br>(၂) Raw Material တင်သွင်းသည့် ပမာဏနှင့် ကုန်ချောပစ္စည်းထုတ်လုပ်ပြီး ပြည်ပသို့ တင်ပို့သည့် ပမာဏတို့ ကိုက်ညီမှုရှိ-မရှိကို မှတ်သားစိစစ်မှုများ ပြုလုပ်ရန်။<br>(၃) မသမာမှုများ ပေါ်ပေါက်ပါက ချက်ချင်းပိတ်သိမ်းမည်ဖြစ်ကြောင်း အသိပေးစာချုပ် ချုပ်ဆိုထားရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊<br>ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက်၊<br>CMPလုပ်ငန်းများကြီးကြပ် ရေးကော်မတီ၊ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊ ဇန်နဝါရီလ(၂၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၀၈) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၁ | ၆၉၂ | (ခ) အထက်ပါသတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်အတွက် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမီတက်မှ သေသေချာချာကြီးကြပ်စိစစ်မှုများပြုလုပ်ရန်။<br>(ဂ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန်။<br>(ဃ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ
တံဆိပ်
ရက်စွဲ ၁၀-၂-၀၈

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၅ ကျပ် ငွေ ငါး ကျပ် K-5

# ဝန်ခံဂတိစာချုပ်

ရက်စွဲ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ( ၁၃ )ရက်

၁။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော မြေနှင့်အဆောက်အဦကို မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co.,Ltd) မှ ငှားရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ (Kitchen Wares) ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် (၂၃-၁-၂၀၀၈)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ (၄/၂၀၀၈)အစည်းအဝေး၏ အောက်ပါဆုံးဖြတ်ချက်များအတိုင်း တိကျစွာလိုက်နာဆောင်ရွက်ပါမည်

(က) ပြည်ပမှတင်သွင်းမည့် Raw Material များ (အပျက်အစီးအတွက်အပိုဆောင်းသည့်ပမာဏ မှလွဲ၍)ဖြင့် ထုတ်လုပ်သည့်ကုန်ချောပစ္စည်းအားလုံးကို ပြည်ပသို့ထုတ်ယူသွားရန်နှင့် Reject ပစ္စည်းများကိုလည်း ပြည်တွင်း၌ရောင်းချခွင့်(မပြု)။

(ခ) Raw Material တင်သွင်းသည့်ပမာဏနှင့် ကုန်ချောပစ္စည်းထုတ်လုပ်ပြီး ပြည်ပသို့တင်ပို့မည့် ပမာဏတို့ ကိုက်ညီမှုရှိရမည်။

၂။ ထို့ကြောင့် အထက်ပါအချက်များကို လိုက်နာရန်ပျက်ကွက်ခြင်း မသမာမှုများဖြစ်ပေါ်ခြင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ ကြီးကြပ်စိစစ်မှုများအရ အထက်ပါအချက်များနှင့် ကိုက်ညီမှုမရှိကြောင်း စစ်ဆေးတွေ့ရှိရပါက အဆိုပါလုပ်ငန်းအားချက်ချင်းပိတ်သိမ်းခံရမည်ကို သိရှိပါကြောင်း နှင့်ကုန်သွယ်မှုမူဝါဒကောင်စီ၏ညွှန်ကြားချက်များအတိုင်း တိကျစွာလိုက်နာဆောင်ရွက်ပါမည်ဖြစ်ကြောင်း အောက်ပါအသိသက်သေများရှေ့မှောက်တွင် ဝန်ခံဂတိပြုလက်မှတ်ရေးထိုးပါသည်။

(signature)
ဦးညိုဝင်းဦး
နိုင်ငံသားအမှတ် ၁၂/မဂတ(နိုင်)၀၅၇၃၃၄
မန်နေဂျင်းဒါရိုက်တာ
မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်

## အသိသက်သေများ

(signature)
ဒုတိယဗိုလ်မှူးကြီးခင်မောင်ကြီး (ငြိမ်း)
ဒါရိုက်တာ
ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

(signature)
ဗိုလ်မှူးခင်လတ် (ငြိမ်း)
အထွေထွေမန်နေဂျာ
ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်သံရုံး
ဆိုးလ်မြို့

## တယ်လီဖက်စ်(အထွက်)

သို့ - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ နေပြည်တော်
မှ - မြန်မာသံရုံး၊ ဆိုးလ်
စာအမှတ် - ၂၅၁ / ၃၂-၁၄
ရက်စွဲ - ၃၀-၇-၂၀၀၇

---

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၀၇ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၈၈/၂၀၀၇(၂၄၅၇)ကိုညွှန်း။

မြန်မာနိုင်ငံရှိ Mercury Rays Manufacturing Co., Ltd. နှင့် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်မည့် ကိုရီးယားသမ္မတနိုင်ငံရှိ Dacho International Corp. သည် တရားဝင်မှတ်ပုံတင် တည်ထောင်ထားကြောင်း အထောက်အထားအဖြစ် Certificate of Business Registration နှင့် ကုမ္ပဏီ၏ Balance Sheet များကို သံရုံးသို့ တင်ပြလာပါသဖြင့် ၄င်းစာရွက်စာတမ်းများ မိတ္တူကို လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် ဤစာနှင့်အတူ ပူးတွဲပေးပို့တင်ပြအပ်ပါသည်။ မူရင်းများကို သံတမန်ချောအိတ်ဖြင့် ဆက်လက်ပေးပို့မည်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

---

ရက်စွဲ၊ ၂၀၀၇ခုနှစ်၊ ဇူလိုင်လ ၃၁ ရက်

သံအမတ်ကြီး (ကိုယ်စား)
( ရဲလွင်၊ ပထမအတွင်းဝန် )

လျှို့ဝှက်

၁၁

# Balance Sheets

The 4th Period As of Dec. 31, 2006

The 3rd Period As of Dec. 31, 2005

Company Name : DAEHO INTERNATION CORP.

(Unit : KRW)

| SUBJECT | The 4th (Current) Period | | The 3rd (Prior) Period | |
|---|---|---|---|---|
| | Amount | | Amount | |
| Assets | | | | |
| 1.Liquid Assets | | 188,961,797 | | 307,045,336 |
| (1)Current Assets | | 188,961,797 | | 307,045,336 |
| Cash And Cash Equivalents | | 64,837 | | 5,479 |
| Ordinary deposit | | 19,860,845 | | 0 |
| Foreign currency deposit | | 85,031,484 | | 52,933,991 |
| Time deposit | | 4,000,000 | | 0 |
| Accounts and receivable | | 37,835,632 | | 170,883,827 |
| Accrued Income | | 8,616,831 | | 3,082,571 |
| Advance Payments | | 160 | | 334,384 |
| Prepaid Expenses | | 32,461,548 | | 78,961,548 |
| Prepaid value added tax | | 0 | | 67,276 |
| Prepaid Income Taxes | | 1,090,460 | | 776,260 |
| (2)Stock Assets | | 0 | | 0 |
| 2.Fixed Assets | | 14,935,028 | | 12,755,420 |
| (1)Invested Assets | | 10,842,000 | | 5,300,000 |
| Guarantee Deposits | | 5,000,000 | | 5,000,000 |
| Other Deposits | | 5,542,000 | | 0 |
| Telephone Subscription Deposit | | 300,000 | | 300,000 |
| Tangible Assets | | 4,093,028 | | 7,455,420 |
| Supplements | 13,580,000 | | 13,580,000 | |
| Accumulated Depreciation | 9,486,972 | 4,093,028 | 6,124,580 | 7,455,420 |
| (3)Intangible Assets | | 0 | | 0 |
| Total Assets | | 203,896,825 | | 319,800,756 |
| Liabilities | | | | |
| 1.Current Liabilities | | 109,050,320 | | 239,843,297 |
| Accounts Payable | | 82,317,174 | | 167,177,533 |
| Unpaid Amount | | 1,694,030 | | 21,048,790 |
| Estimated Bill Collecting | | 186,650 | | 23,200 |
| VAT Estimated Bill Collecting | | 15,672 | | 0 |
| Short Term Borrowings | | 0 | | 29,684,556 |
| Suspense Receipt | | 21,898,218 | | 21,898,218 |
| Advances from Customer | | 314,499 | | 0 |
| Unpaid Cost | | 2,624,077 | | 11,000 |
| 2.Fixed Liabilities | | 0 | | 0 |
| Total Liabilities | | 109,050,320 | | 239,843,297 |

# Balance Sheets

| | | | | |
|---|---|---|---|---|
| Capital | | | | |
| 1 Share Capital | | 50,000,000 | | 50,000,000 |
| Share Capital | | 50,000,000 | | 50,000,000 |
| 2 Capital Surplus | | 0 | | 0 |
| 3 Retained Earnings | | 44,846,505 | | 29,957,459 |
| Retained Earnings before Appropriation | | 44,846,505 | | 29,957,459 |
| (Current Net Income) | | | | |
| Current Perood : 14.889.046 KRW | | | | |
| Prior Period : 14,089,200 KRW | | | | |
| 4.Capital Adjustment | | 0 | | 0 |
| Gross Sum of Capital | | 94,846,505 | | 79,957,459 |
| Gross Sum of Debs and Capital | | 203,896,825 | | 319,800,756 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၅ / MIC/ ( ၂၅၉/၂၀၀၇)။
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ ( ၇ ) ရက်။

အကြောင်းအရာ ။ ။ <u>မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မြေကွက်အမှတ် (၃၉) တွင် မီးဖိုချောင်သုံး ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား (၅၀၀) ကီလိုဝပ် လိုအပ်ချက်အတွက် သဘောထားမှတ်ချက် ပြန်ကြားခြင်း။</u>

ရည်ညွှန်းချက် ။ ။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၅-၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ရက - ၆(က) မ -၉၈၈/ ၂၀၀၇ (၂၃၀၂)။

၁။ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုနယ်မြေ မြေကွက်အမှတ်(၃၉) ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် ပိုင်ဆိုင်သော မြေနှင့် မြေပေါ်ရှိ အဆောက်အဦးကို မာကျူရီရေး(စ်)မင်းချူဖက်ချားရင်းကုမ္ပဏီ လီမိတက်မှ ငှားရမ်း၍ CMP စနစ်ဖြင့် မီးဖိုချောင်သုံး ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား တစ်နှစ် (၅၀၀) ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ ပျဉ်းမပင်စက်မှုနယ်မြေ၊ မြေကွက်အမှတ် (၃၉) ၏ လျှပ်စစ်ဓာတ်အား လိုအပ်ချက် (၅၀၀) ကီလိုဝပ်အား (၃၃)ကေဗွီ ၊ ပျဉ်းမပင် စက်မှုဇုန်ခွဲရုံ (၃၃/၁၁)ကေဗွီ၊ (၁၀) အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁) ကေဗွီလိုင်းဖြင့် ဓာတ်အားပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး( [illegible] )
(ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ်)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ။ မာကျူရီရေး(စ်) မင်းချူဖက်ချားရင်းကုမ္ပဏီလီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ် (၁) စက်မှုဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂၉/၁၈(၁)/၂၀၀၇ (၇၀၈၉)

ရက် စွဲ၊ ၂၀၀၇ ခုနှစ် ဩဂုတ်လ ၉ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ ခုနှစ် မေလ ၂၈ ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၈၈/၂၀၀၇(၂၃၀၁)

၁။ Mercury Rays MFG Co.,Ltd. မှ CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါအဆိုပြုလွှာနှင့်ပတ်သက်သောအချက်အလက်များကို စိစစ်ရာ အောက်ဖော်ပြပါ အတိုင်း တွေ့ရှိရပါသည်-

(က) Stainless Steel ဖြင့်ထုတ်လုပ်သော ကုန်ချောပစ္စည်း(၇)မျိုးနှင့် Aluminium ဖြင့်ထုတ်လုပ်သော ကုန်ချောပစ္စည်း(၅)မျိုးအတွက် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ခ) Stainless Steel ထုတ်လုပ်မည့် စက်ပစ္စည်း(၁၂)မျိုးနှင့် ဖါတ်ဘူးထုတ်လုပ်မည့် စက်ပစ္စည်း(၁၅၁)မျိုးကို Mercury Rays MFG ကုမ္ပဏီက ထွန်းသစ္စနေမင်း ကုမ္ပဏီမှတစ်ဆင့် ဝယ်ယူခဲ့ရာတွင် အမေရိကန်တစ်ဒေါ်လာလျှင် ကျပ် ၁၃၀၀ နှုန်းတန်ဖိုးသင့်ထားကြောင်း တွေ့ရှိရပါသည်။ ကုန်ချောမှာပြည်ပသို့ CMP စနစ်ဖြင့်တင်ပို့မည့် ပစ္စည်းဖြစ်သဖြင့် ဈေးနှုန်းစိစစ်နိုင်ခြင်းမရှိသော်လည်း CMP လုပ်ခနှုန်းထားမှာ သင့်တင့်ကြောင်း စိစစ်တွေ့ရှိပါသည်။

(ဂ) စက်အသီးသီး၏ (၈)နာရီတစ်ဆိုင်းလျှင် ထုတ်လုပ်နိုင်သည့်အရေအတွက်အရ အခြေပြုစိစစ်ရာတွင် နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားညီမျှမှုရှိကြောင်း တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Mercury Rays MFG Co.,Ltd အနေဖြင့် ကုန်ချောပစ္စည်းများအားလုံးနီးပါး ပြည်ပသို့တင်ပို့ရောင်းချလျှင် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် reject ကို ပြည်တွင်း၌ ပြန်လည်ရောင်းချလျှင် Food Grade ဖြစ်ရန်လိုကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီး( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို–

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
ပြန်ဟာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁)စက်မှုဝန်ကြီးဌာန
CMPလုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊ နေပြည်တော်

စာအမှတ်၊ ၁၅၁၅(၅) CMP/ ၂၀၀၇ ( ၁၅၄၅ )
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၁.၂၀၀၇ ရက်စွဲပါစာအမှတ်၊ ရက- ၆(က)/မ-၉၉၂/၂၀၀၇ (၉၇၁၈)

၁။ ရန်ကုန်တိုင်း၊မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မြေကွက်အမှတ်(၃၉)မှယင်းမြေကွက်ပေါ်ရှိအဆောက်အဦကိုငှားရမ်း၍CMP စနစ်ဖြင့် မီးဖိုဆောင်သုံးပစ္စည်း(Kitchen Wares) အမျိုးမျိုးထုတ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် Mercury Rays Mfg Co.,Ltd. မှမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ CMP လုပ်ငန်းများကြီးကြပ် ရေးကော်မတီအနေဖြင့် အောက်ဖော်ပြပါ အချက်အလက်များကို စိစစ်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံချက်အရစိစစ်ရာတွင်အောက်ပါအတိုင်းတွေ့ရှိရ ပါသည်-

(က) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မှတ်ပုံတင်ဆောင်ရွက်နေခြင်းရှိ-မရှိ "Mercury Rays Mfg Co.,Ltd."အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်ဆောင်ရွက်ထားခြင်းမရှိသေးကြောင်း စိစစ်သိရှိရပါသည်။

(ခ) ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအမျိုးအစားညီညွတ်မှုရှိ-မရှိ မူလMIC တင်ပြအစီရင်ခံစာတွင်ကုန်ချောပစ္စည်းအမျိုးအစားတစ်မျိုးခြင်းကိုအသုံးပြုထားသည့်အဓိကကုန်ကြမ်းတစ်မျိုးချင်းအလိုက် သီးခြားတွက်ချက်ဖော်ပြခြင်းမရှိပါ။ အလူမီနီယံနှင့်စတီးကို ရောနှောဖော်ပြထားသည်။ စစ်ဆေးရေးအဖွဲ့မှအသုံးပြုကုန်ကြမ်းအလိုက် ခွဲခြားပြင်ဆင်တွက်ချက်ပေးရန်ညှိနှိုင်းခဲ့ရာကုမ္ပဏီမှနောက်ဆက်တွဲ(က)(ခ)ပါအတိုင်း ပြင်ဆင်တွက်ချက်တင်ပြလာပါသည်။ ပြင်ဆင်တင်ပြချက်မှာ သင့်တင့်လျှောက်ပတ်မှုရှိကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဂ) စက်ပစ္စည်းဈေးနှုန်းနှင့်ကုန်ချောဈေးနှုန်းများတင်ပြထားမှုသည်ဆီလျော်မှုရှိ-မရှိ စက်ပစ္စည်းဈေးနှုန်းနှင့်ကုန်ချောဈေးနှုန်းများတင်ပြထားမှုသည် ယေဘူယျအားဖြင့်ဆီလျော်မှုရှိကြောင်းစိစစ်သိရှိရပါသည်။

(ဃ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစားညီညွတ်မှုရှိ-မရှိ နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစားညီညွတ်မှုရှိသည်ကိုစိစစ်သိရှိရပါသည်။

၂။ "Mercury Rays Mfg Co.,Ltd."မှ CMP စနစ်ဖြင့် Kitchen Wares အမျိုးမျိုးထုတ်လုပ်သည့် လုပ်ငန်းကို မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ ပြင်ဆင်တင်ပြသော ကုန်ချောပစ္စည်းတစ်မျိုးချင်းအလိုက်ကုန်ကြမ်းသုံးစွဲမှုကို ပြင်ဆင်ရန်လိုအပ်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
သန်းအေး–တွဲဖက်အတွင်းရေးမှူး
CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နောက်ဆက်တွဲ

Table of Finished goods and raw comparison-

## Aluminium Items

| Sr | Item | Yearly Qty (pcs) | Monthly Qty(pcs) | Proposed Yearly Raw consumption | Raw consumption (Net) major raw /Al (in Kg)Net | | monthly |
|---|---|---|---|---|---|---|---|
| | | | | | per pc | Yearly | Consumption /item |
| 1 | Frypan | 1,800,000 | 150,000 | | 0.550 | 990,000 | 82,500 |
| 2 | Wokpan | 720,000 | 60,000 | | 0.550 | 396,000 | 33,000 |
| 3 | Saucepot | 600,000 | 50,000 | | 0.325 | 195,000 | 16,250 |
| 4 | Buffet Casserole | 120,000 | 10,000 | | 0.325 | 39,000 | 3,250 |
| | | | 270,000 | 1,800,000 | | 1,620,000 | 135,000 |

Remark : A )Yearly major Aluminium consumption is total of aluminium ingot and aluminium scrap import : 1440+ 360=1800Mt=1800,000Kg
There is a normal loss of 10% on processing which includes
waste on Ingot Melting and processing such as cutting , polishing & sanding although scrap can be recycled by melting again

B) One third of total proposed production quantity for Saucepot and Buffet Casserole are planned to be Aluminium and two third are planned to be Steel.

C ) Rejects is expected to be 1% to 3% of total production but because of nature of business, the rejects are not saleable locally since it is mainly due to crack or totally damaged item which cannot be used or fixed.

နောက်ဆက်တွဲ (၁)

Table of Finished goods and raw comparison

Steel Items

| Sr No | Item | Yearly Qty (pcs) | Monthly Qty(pcs) | Proposed Yearly Raw consumption | Raw consumption (Net) major raw /Alu (in Kg)Net per pc | Raw consumption (Net) major raw /Alu (in Kg)Net Yearly | monthly Consumption /item ( in Kg ) |
|---|---|---|---|---|---|---|---|
| 1 | Saucepot | 1,200,000 | 100,000 | | 0.165 | 198,000 | 16,500 |
| 2 | Buffet Casserole | 240,000 | 20,000 | | 0.165 | 39,600 | 3,300 |
| 3 | Bowl | 720,000 | 60,000 | | 0.145 | 104,400 | 8,700 |
| 4 | Steel Kettle | 6,415,000 | 534,583 | | 0.158 | 1,013,570 | 84,464 |
| 5 | Steel Steamer one body | 360,000 | 30,000 | | 0.170 | 61,200 | 5,100 |
| 6 | Steel Steamer two body | 360,000 | 30,000 | | 0.179 | 64,440 | 5,370 |
| 7 | Steel Food Carrier | 1,080,000 | 90,000 | | 0.375 | 405,000 | 33,750 |
| 8 | Steel Juice Presser | 180000 | 15,000 | | 0.115 | 20700 | 1,725 |
| 9 | Steel Vacuum Flask | | | | | | |
| 10 | Steel Car adaptor Flask | | | | | | |
| | | 10,555,000 | 879,583 | 2,358,000 | | 1,906,910 | 158,909 |

Remark : A )Yearly major Steel consumption is total of Cold roll sheet,Steel wire,3 Ply steel, Carbon steel, Cold roll scrap:t=1080+90+540+540+108=2,358,000 kg

There is a normal loss of 15 to 20 % on processing which includes waste and loss on

1. Cutting Steel sheet into circles ( 12 to 15 % of total weight )
2. Repeated Polishing, screen spot punching ( 3% to 5 % of total weight )

As steel cannot be recycle like alumnium, the normal production loss ( waste ) on steel production is more than aluminium.

B) Two third of total proposed production quantity for Saucepot and Buffet Casserole are planned to be Steel and one third are planned to be Aluminium.

C ) Rejects is expected to be 1% to 3% of total production but because of nature of business, the rejects are not saleable locally since it is mainly due to crack or totally damaged item which cannot be used or fixed.

D)For Item No 9 and 10, raw are imported separately in the form of steel vacuum body,plastic lid, coil etc.

# Mercury Rays Manufacturing Co.,Ltd

Tel : 638310, 638324, 721407
E-mail : mrm@mptmail.net.mm
nyo-kim@myanmar.com.mm

Plot-39, No. 3 Trunk Road,
Pyinmabin Industrial Zone,
Mingalardon Township, Yangon,
Myanmar.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၀၈ခုနှစ်၊ ဇန်နဝါရီလ၊ ( ၁၆ )ရက်

အကြောင်းအရာ။ ။ CMP ကော်မတီ၏ စစ်ဆေးကြည့်ရှု၍ အကြံပြုညွှန်ကြားချက်အရ ကုန်ကြမ်းအသုံးပြုမှု (Utilization of raw materials for Products ) ပြန်လည်တင်ပြခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co., Ltd. )မှ အဆိုပြုတင်ပြထားသော Aluminium နှင့် Stainless Steel Cooking Wares CMP လုပ်ငန်းအတွက် CMP ကော်မတီမှ ၂၀၀၇ခုနှစ်၊ ဒီဇင်ဘာလ(၁)ရက်နေ့က Mercury Rays Manufacturing Co., Ltd. သို့လာရောက်စစ်ဆေး၍ အဆိုပြုလွှာပါအချက်များ၌ ပြင်ဆင်ဖြည့်စွက်သင့်သည်များကို ညွှန်ကြားခဲ့ရာ၊ ပြင်ဆင်ဖြည့်စွက်၍ လိုအပ်သောကုန်ချောပစ္စည်းတစ်ခုစီအလိုက် ကုန်ကြမ်းအသုံးပြုမှုအား CMP ကော်မတီ၏ ညွှန်ကြားချက်နှင့်အညီ ပြန်လည်ပြင်ဆင်၍ ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက-၁၂/၂/၂၀၀၇ (၃၁)
ရက်စွဲ ၊ ၂၀၀၇ ခုနှစ် ၊ ဇူလိုင်လ ၄ ရက်

အကြောင်းအရာ။ **CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်အတွက် သဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ ။**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈ - ၅ - ၂၀၀၇ ရက်စွဲပါစာအမှတ် ရက - ၆(က) / မ-၉၈၈/၂၀၀၇ (၂၃၀၃)

(၂) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအလုပ်အမှုဆောင်ကော်မတီအစည်းအဝေး အမှတ်စဉ် ၁၅ / ၂၀၀၇ ( ၂၁ - ၆ - ၂၀၀၇ )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အထက်ရည်ညွှန်း(၁)ပါစာဖြင့်သဘောထားတောင်းခံထား သည့် မာကျူရီ(စ်) မင်န်ျူဖက်ချာရင်း ကုမ္ပဏီလီမိတက်အား CMP စနစ်အရ အဆိုပြုလုပ်ငန်းပါကုန်ကြမ်း/ကုန်ချောများ တင်သွင်း/ တင်ပို့ရန် ကိစ္စနှင့်စပ်လျဉ်း၍ ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်းခြင်း၊ ကုန်ချော ပစ္စည်းများ ထုတ်လုပ်တင်ပို့ခြင်းကို ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန၏ ၈-၁၂-၁၉၉၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အရ အကောက်ခွန်ဦးစီးဌာန၏ လုပ်ထုံး လုပ်နည်း များအတိုင်း ဆောင်ရွက်ရမည်ဖြစ်ပါသည် ။ကုန်ကြမ်းပစ္စည်း တင်သွင်းခြင်းနှင့် ကုန်ချောပစ္စည်း များပြန်လည်တင်ပို့ခြင်းနှင့်ပတ်သက်၍ ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိ ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( အောင်နိုင်ဦး ၊ ရုံးအဖွဲ့မှူး )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

F:/KSW(Director)/office letter.doc 16

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
အကောက်ခွန်ဦးစီးဌာန
(ထုတ်ကုန်သွင်းကုန်ကြီးကြပ်ရေးဌာနခွဲ)

စာအမှတ်၊ ၁၈-၇၁/၂၀၀၇(၇၁၉)
ရက်စွဲ၊ ၂၀၀၇ခုနှစ်ဇွန်လ ၂၇ ရက်

အကြောင်းအရာ။ **မာကျူရီရေး(စ်) မင်နှုဖက်ချားရင်းကုမ္ပဏီလီမိတက်မှ စက်ပစ္စည်းများ ဝယ်ယူရန်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၅-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၉၈၀/၂၀၀၇ (၂၂၄၉-ဃ)

ရည်ညွှန်းပါစာဖြင့် မေးမြန်းခဲ့သော သိဒ္ဓိဇကုမ္ပဏီလီမိတက်မှ တင်သွင်းခဲ့သော စက်ပစ္စည်းများနှင့် ပတ်သက်၍ ပူးတွဲတင်ပြထားသော သွင်းကုန်ကြေညာလွှာ(၂)စောင်အား စိစစ်ရာတွင် သွင်းစဉ်ကကျသင့်သော အခွန်အခများ ပေးဆောင်ခဲ့သည်မှာ မှန်ကန်ပါကြောင်းနှင့် ပေးဆောင်ခဲ့သည့်အခွန်အခများမှာ သွင်းကုန်ခွန်ကျပ် ၅၂၅၁၂.၅၀ နှင့် ကုန်သွယ်လုပ်ငန်းခွန်ကျပ် ၈၈၉၄၀၇ တို့ ဖြစ်ကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
ရဲထွဋ်အောင်၊ ဒုတိယညွှန်ကြားရေးမှူး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊**
**ရုံးအမှတ် ၃၂၊ နေပြည်တော်။**

မိတ္တူကို -
ရုံးလက်ခံ
မျှောစာတွဲ

2. If either party desires to terminate this MOU, it shall hive one month prior notice.

3. At the end of twenty four months from the date of signing this MOU, the Parties shall have the option to extend this MOU through mutual concurrence. Signed on the 20th. of December, 2006.

For and on behalf of "Party A"

DAEHO INTERNATIONAL CORP.

AUTHORIZED BY

For and on behalf of "Party B"

U Nyo Min Oo
Managing Director
Mercury Kays Manufacturing Co., Ltd

လျှို့ဝှက်

၆၉

# ပြည်ထောင်စုမြန်မာနိုင်ငံတော်

## ရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅)၃-၃/နပတ (၆၉)

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဧပြီလ ၂ ရက်

အကြောင်းအရာ။ မြေငှားစာချုပ်(မူကြမ်း) စိစစ်ပေးရန်ကိစ္စ

ရည် ညွှန်း ချက်။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ ၂၈-၃-၂၀၀၇ ရက်စွဲပါ စာအမှတ်၊ ဦးပိုင် /စီမံ - ထွေ/ ၂၀၀၇ (၀၃၈)

၁။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်ပိုင် မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်ကွက်မှူ နယ်မြေမြို့ မြေကွက်အမှတ် ၁၉ ရှိ မြေဧရိယာ ၉၇၈၉ စတုရန်းမီတာကို မြန်မာနိုင်ငံသားပိုင် Mercury Rays Manufacturing Co. Ltd အား (၁၀)နှစ်သက်တမ်းဖြင့် ငှားရမ်းရန်အတွက် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)ကို စိစစ်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ပူးတွဲလာသော မြေငှားစာချုပ်(မူကြမ်း)ကိုလေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)အရ စာချုပ်ဝင်များမှာ မြန်မာနိုင်ငံသား၊ ကုမ္ပဏီများ ဖြစ် သည့်အလျောက် မြန်မာနိုင်ငံဥပဒေများကို လိုက်နာရမည်သာဖြစ်၍ ဖြင့် အပိုဒ် ၁၃ လွှမ်းမိုးသည့်ဥပဒေအပိုဒ် မလိုအပ်ပါ၍ ပယ်ဖျက်ပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ အငှားချထားသူ၏ တာဝန်ဝတ္တရားအပိုဒ်တွင် ဖော်ပြထားသော စည်းကမ်းချက်မှာ အငှားချထားခြင်းခံရသူ၏ တာဝန်များ ဖြစ်ကြောင်းတွေ့ရှိရသဖြင့် အပိုဒ် ၉ အငှားချထားခြင်းခံရသူ၏ တာဝန်များ ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)မူလအပိုဒ် ၂၂ (ဂ)ရက်စွဲကွက်လပ်နှင့် အပိုဒ် ၂ တွင် ရည်ညွှန်းထားသော နောက်ဆက်တွဲများနှင့် မြေပုံကို စာချုပ်ချုပ်ဆို ရေးထိုးချိန်၌ ပြည့်စုံစွာ ဖြည့်စွက်ပြီးပူးတွဲထားရန် လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)တွင် မြေသို့ပြန်လည်ဝင်ရောက်ခြင်း စည်းကမ်းချက်ပါရှိ သဖြင့်ရေးသားပေးလိုက်ပါသည်၊

လျှို့ဝှက်

# မာတိကာ

# မြေနှင့်အဆောက်အဦများငှားရမ်းခြင်း သဘောတူစာချုပ်

ဤမြေနှင့်အဆောက်အဦများငှားရမ်းခြင်းသဘောတူစာချုပ် (ဤမှနောင်တွင် **"အငှားစာချုပ်"** ဟုခေါ်ဆိုရမည်) ကို ရန်ကုန်မြို့၌ ၂၀၀၇ ခုနှစ်၊ လ ( )ရက်နေ့တွင် ဒါရိုက်တာဒုတိယဗိုလ်မှူးကြီးမောင်မောင်အေး(ငြိမ်း) ကိုယ်စားပြုသော **ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်** (ဤမှနောင်တွင် "အငှားချထားသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) ကတစ်ဖက်

နှင့်

မန်နေဂျင်းဒါရိုက်တာ**ဦးညိုမင်းဦး** ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သော **"မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီ လီမိတက်" (Mercury Rays Manufacturing Co.,Ltd.)** မြေကွက်အမှတ်(၃၉)၊ အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုဇုံ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင်စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင် ကိုယ်စားလှယ်များပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်

တို့သည်

အောက်ဖော်ပြပါ စည်းကမ်းချက်များကိုသတ်မှတ်၍ နှစ်ဦးနှစ်ဖက်သဘောတူ **"အငှားစာချုပ်"**ကို ချုပ်ဆိုကြပါသည်။

<u>**ရည်ရွယ်ချက်**</u>

၂။ ဤ **"အငှားစာချုပ်"**အရ **"အငှားချထားသူ"**ပိုင် နောက်ဆက်တွဲ(က)မြေပုံပါ ရန်ကုန်မြို့၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုနယ်မြေ ရှိ မြေကွက်အမှတ် (၃၉)ပေါ်တွင် တည်ရှိသော(အလျား ၁၃၂ ပေ × အနံ ၈၄ ပေ)ရှိ အဆောက်အဦအပါအဝင် မြေဧရိယာ(၉,၇၈၉)စတုရန်းမီတာကို **"အငှားချထားခြင်းခံရသူ"**ထံသို့ လက်ရှိပလပ်စတစ်ပိုက်ပျော့ထုတ်လုပ်ခြင်း လုပ်ငန်းအပြင် မီးဖိုချောင်သုံးပစ္စည်းများ (Kitchen Wares) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ရန် ကနဦး(၁၀)နှစ် ငှားရမ်းမည်ဖြစ်ပါသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ **"အငှားချထားသူ"**သည် ဤမြေနှင့်အဆောက်အဦကို မိမိလက်ဝယ်တွင်ရှိပြီး တရားဝင်ပိုင်ဆိုင်မှု ရှိကြောင်းအာမခံသည်။ ဤမြေကွက်ကို **"အငှားချထားခြင်းခံရသူ"**ကို အငှားချထားရန်သဘောတူသည်။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ကိုအကောင်အထည်ဖေါ်ရန် ငွေကြေးအင်အားပြည့်စုံသော ကုမ္ပဏီလီမိတက် ဖြစ်ပါသည်။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူနှစ်ဖက်စလုံးသည် ဤသဘောတူစာချုပ်ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်းအာမခံသည်။

**ဆောင်ရွက်ရမည့်ဥပဒေ**

၄။ ဤ **"အငှားစာချုပ်"**ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးလုပ်နည်းများနှင့်အညီ **"အငှားစာချုပ်"**ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖေါ်ဆောင်ရွက်ရမည်။

**ငှားရမ်းမည့်ကာလ**

၅။ ငှားရမ်းမည့်ကာလမှာ ကနဦး **(၁၀)**နှစ်ဖြစ်ပြီး၊ ကနဦး (၁၀)နှစ်ပြည့်သောအခါတွင် တစ်ကြိမ်လျှင် (၂)နှစ်စီဖြင့် သုံးကြိမ်သက်တမ်းတိုးမြှင့်နိုင်သည်။

**ငှားရမ်းခနှုန်းထားနှင့်ငွေပေးသွင်းရမည့်ကာလ**

၆။ ငှားရမ်းခနှုန်းထားနှင့်ငွေပေးသွင်းရမည့်ကာလမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

ငှားရမ်းခနှုန်းထားနှင့်ငွေပေးသွင်းရမည့်ကာလမှာ အောက်ပါအတိုင်းဖြစ်ပါသည် - ငှားရမ်းမြေ **(၉,၇၈၉)**စတုရန်းမီတာအတွက်

(က) ၁ စတုရန်းမီတာလျှင် = ကျပ် **(၂,၂၅၀)** နှုန်းဖြင့် ငှားရမ်းမြေ **(၉,၇၈၉)**စတုရန်းမီတာအတွက် **(၁)နှစ်လျှင် ကျပ် ၂၂,၀၂၅,၂၅၀** (ကျပ်သိန်းနှစ်ရာ့နှစ်ဆယ်နှစ်သောင်းငါးထောင်နှစ်ရာ့ ငါးဆယ်တိတိ) ဖြစ်သည်။

(ခ) ငှားရမ်းခကျသင့်ငွေကို (၁)နှစ်လျှင် (၆)လ (၂)ကြိမ်ခွဲ၍ ကြိုတင်ပေးသွင်းရမည်။

(ဂ) ထို့ကြောင့်စာချုပ်ချုပ်ဆိုလက်မှတ်ရေးထိုးသည့်နေ့ရက်မှ (၃၀)ရက်အတွင်း (၆)လအတွက် ငှားရမ်းခကျသင့်ငွေ **ကျပ် ၁၁,၀၁၂,၆၂၅** ကိုကြိုတင်ပေးသွင်းရမည်။

(ဃ) ကျန်ငှားရမ်းကာလများအတွက် နှစ်စဉ်(၆)လပြည့်ပြီးတိုင်း (၃၀)ရက်အတွင်း နောက်(၆)လ အတွက် ငှားရမ်းခငွေကို မပျက်မကွက်ကြိုတင်ပေးသွင်းရမည်။

**အငှားစာချုပ်၏အကျိုးသက်ရောက်မှုနှင့်ကာလ**

၇။ ဤ **"အငှားစာချုပ်"**သည် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ ဤစာချုပ်ပေါ်တွင် လက်မှတ်စတင်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။ ငှားရမ်းခြင်းကာလပြည့်သောနေ့ (သက်တမ်းတိုး ကာလအပါအဝင်)တွင် အဆိုပါမြေကွက်ပေါ်တွင် ရင်းနှီးမြှုပ်နှံထားသည့် မရွှေ့မပြောင်းနိုင်သောပစ္စည်းများနှင့် ဆက်စပ်လျက်ရှိသော ပစ္စည်းအားလုံးကို **"အငှားချထားခြင်းခံရသူ"**က **"အငှားချထားသူ"**ကို အဖိုးစားနားမပါဘဲ ရက်ပေါင်း (          )အတွင်း လွှဲပြောင်းပေးရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၈။ **"အငှားစာချုပ်"**သက်တမ်းတိုးခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်နိုင်သည် -

(က) **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃)လကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြ၍ **"အငှားချထားသူ"**ထံသို့ စာဖြင့်အကြောင်းကြားတင်ပြရမည်။

(ခ) **"အငှားချထားသူ"**က ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းမည့်ကာလအတွက် ငှားရမ်းခနှုန်းထား နှင့်စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍စာချုပ်ချုပ်ဆိုပြီး ထပ်မံငှားရမ်းရမည်။

(ဂ) စာချုပ်ပါအငှားသက်တမ်းကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဖက်ဆက်လက်ငှားရမ်းလိုခြင်းမရှိပါက ရက်ပေါင်း (          )အတွင်း အဖိုးစားနားမဲ့ မြေနှင့်အဆောက်အဦကို **"အငှားချထားသူ"**ထံသို့ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးရပါမည်။

**အငှားချထားခြင်းခံရသူ၏တာဝန်ဝတ္တရားများ**

၉။ **"အငှားချထားခြင်းခံရသူ"** ၏တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"ငှားရမ်းခ"**ကို အထက်စာပိုဒ် (၆)တွင်ပါရှိသည့်အတိုင်း ပေးချေသွားရန်နှင့် မြေခွန်ဌာနသို့ပေးရန် မြေခွန်မှအပ နိုင်ငံတော်သို့ပေးရန်ရှိသော အခွန်အခများ ရေ၊ မီး၊ တယ်လီဖုန်းအစရှိသော အသုံးစရိတ်များအား **"အငှားချထားခြင်းခံရသူ"**က ပေးချေဆောင်ရွက်သွားရမည်။

(ခ) အငှားချထားသည့်မြေပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အဦအား လိုအပ်သောပြုပြင် မွမ်းမံမှုများ ပြုလုပ်ရမည်။

(ဂ) အငှားချထားသည့်မြေနှင့် အဆောက်အဦအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကို သော်လည်းကောင်း၊ နိုင်ငံသားများကိုဖြစ်စေ၊ နိုင်ငံခြားသားများကိုဖြစ်စေ၊ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း (သို့မဟုတ်) လွှဲအပ်ခြင်းတို့ကို (လုံးဝ)မပြုလုပ်ရ။

(ဃ) **"အငှားချထားခြင်းခံရသူ"**၏ ငှားရမ်းမြေပေါ်ရှိ မီးဖိုချောင်သုံးပစ္စည်းထုတ်လုပ်သည့် စက်ရုံအတွက် ဆောင်ရွက်ချက်များ၊ လုပ်ဆောင်မှုများအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ဥပဒေများ နှင့်အညီသာ ဖြစ်ရမည်။

(င) ရေဆိုးများမရှိစေရေး၊ စွန့်ပစ်စနစ်တည်ဆောက်အကောင်အထည်ဖော်ရေးနှင့် မြန်မာနိုင်ငံတော် ရေဆိုးများမရှိစေရေး၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ ဒေသအလိုက် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေရေး အစီအမံများပြုလုပ်ရမည်။

(စ) ဤ**"အငှားစာချုပ်"**သက်တမ်းကုန်ဆုံးသောအခါ အငှားချထားသောမြေနှင့်အဆောက်အဦကို ကောင်းမွန်သောအခြေအနေအတိုင်း**"အငှားချထားသူ"**သို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

အငှားချထားသည့်ပစ္စည်းများအပေါ်တွင် တပ်ဆင်မှု၊ ပုံစံပြောင်းမှုအားလုံးအား အငှားသက်တမ်း
(ဆ) အငှားချထားသည့်ပစ္စည်းများအပေါ်တွင် တပ်ဆင်မှု၊ ပုံစံပြောင်းမှုအားလုံးအား အငှားသက်တမ်း ကုန်ဆုံးသည့်အချိန်တွင်လည်းကောင်း၊ အငှားစာချုပ်ရုပ်စဲသည့်အခါတွင်လည်းကောင်း၊ အခကြေး ငွေပေးရန်မလိုဘဲ **"အငှားချထားသူ"**၏ပစ္စည်းအဖြစ် အလိုအလျောက်ဖြစ်လာစေရမည်။

(ဇ) နိုင်ငံတော်အတွက်ပိုမိုအကျိုးရှိရန်အလို့ငှာ တိုးတက်ပြောင်းလဲလာသောခေတ်နှင့်အညီ **"အငှားချထားခြင်းခံရသူ"**က လုပ်ငန်းသစ်များ တိုးတက်ပြောင်းလဲလုပ်ကိုင်လိုလျှင် **"အငှားချထားသူ"**ထံသို့ တင်ပြ၍ ခွင့်ပြုချက်ရရှိမှသာဆောင်ရွက်ရန်။

(ဈ) **"အငှားချထားခြင်းခံရသူ"**က လိုအပ်ချက်များရှိပါက လိုအပ်သလိုကူညီဆောင်ရွက်ပေးရန်။

**<u>အငှားချထားသူ၏တာဝန်ဝတ္တရားများ</u>**

၁၀။ **"အငှားချထားသူ"** ၏တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"ငှားရမ်းချထားခြင်းခံရသူ"**သည် အငှားချထားသည့် ငှားရမ်းကာလအတွင်းအငှားချထားသော ပစ္စည်းများကို အေးငြိမ်းချမ်းသာစွာ လက်ဝယ်ထားပိုင်ခွင့်ရှိစေရေးအတွက် **"အငှားချထားသူ"**က သော်လည်းကောင်း၊ **"အငှားစာချုပ်"**ကို ကိုယ်စားပြုသည်ဟု တရားဝင်ဖော်ထုတ်နိုင်သူက သော်လည်းကောင်း၊ ဤ **"အငှားစာချုပ်"**အတည်ဖြစ်နေသည့်ကာလအတွင်း အနှောက်အယှက် ဖြစ်ခြင်းများမရှိစေရန်။

(ခ) မြေခွန်ကိုပေးဆောင်ရန်။

(ဂ) အငှားချထားသည့် အဆောက်အဦတွင် တပ်ဆင်ထားသည့် လျှပ်စစ် ၊ ရေ တို့ကို **"အငှားချထားခြင်းခံရသူ"**အား ဆက်လက်အသုံးပြုခွင့်ပေးရန်။

**<u>အငှားစာချုပ်ရုပ်စဲခြင်း</u>**

၁၁။ ဤ **"အငှားစာချုပ်"** ကို အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက် တစ်ရပ်ရပ်ဖြစ်ပေါ်ပါက ရုပ်စဲနိုင်သည် -

(က) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ်ပေါက်နေမှုကြောင့် အငှားစာချုပ်ရုပ်စဲရန် **"အငှားချထားခြင်းခံရသူ"**မှ တင်ပြလာခြင်း။

(ခ) အငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ဂ) ဤအငှားစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကို ရုပ်စဲလိုပါက ရုပ်စဲလိုကြောင်း အကြောင်းကြားစာကို အခြားတစ်ဖက် ထံသို့ (၃)လကြိုတင်၍ ပေးပို့အသိပေးရမည်။

(ဃ) အထက်အပိုဒ်(က)နှင့်(ခ)ပါအကြောင်းများကြောင့် စာချုပ်ကိုရုပ်စဲသောအခါတွင် ဆောင်ရွက် ပြီးသောလုပ်ငန်းများအတွက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်နစ်နာဆုံးရှုံးမှုမရှိစေရန် နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်သွားရမည်။

(င) **"အငှားချထားခြင်းခံရသူ"**က စာချုပ်ပါစည်းကမ်းချက်များ ဖောက်ဖျက်၍ စာချုပ်ကိုရုပ်စဲခြင်း ကြောင့် **"အငှားချထားခြင်းခံရသူ"**ထံမှ ရရန်ရှိသောမြေငှားခများ၊ လျော်ကြေးများ၊ ရယူပိုင် ဆိုင်ခွင့်ကို မထိခိုက်စေရပါ။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၂။ ဤ **"အငှားစာချုပ်"** လက်မှတ်မရေးထိုးမီက ကြိုတင်သဘောတူညီချက်များကို ဤ **"အငှားစာချုပ်"**က လွှမ်းမိုးသည်ဟု မှတ်ယူရမည်။

**စာရင်းစစ်ဆေးခြင်း**

၁၃။ ဤ **"အငှားစာချုပ်"** ပါ လုပ်ငန်းများနှင့်စပ်လျဉ်းသော စာရင်းများကို မြန်မာနိုင်ငံတည်ဆဲဥပဒေများနှင့်အညီ လက်မှတ်ရပြည့်သူ့စာရင်းကိုင်တစ်ဦး(သို့မဟုတ်)အဖွဲ့ကစစ်ဆေးရမည်။

**မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ**

၁၄။ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ သူပုန်ထခြင်း၊ ပေါက်ကွဲခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သည့်ဖြစ်ရပ်များ (သို့မဟုတ်)မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွန်ဆန်နိုင်သည့်ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကို ဖြစ်ပွားသည့်နေ့မှ (၁၄)ရက်အတွင်း **"အငှားချထားသူ"** ထံသို့ စာ၊ တယ်လီဖုန်းတို့ဖြင့် အကြောင်းကြားရမည်။ **"အငှားချထားသူ"**မှလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ်ချုပ်ဆိုသူနှစ်ဖက်လုံးတွင် မည်သည့်တာဝန်မျှမရှိစေရ ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်သည့်ကာလကို စာချုပ်သက်တမ်းကာလမှထုတ်နုတ်ရန် သဘောတူကြပါသည်။

**အနုညာတစီရင်ဆုံးဖြတ်ခြင်း**

၁၅။ အကယ်၍ ဤအငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက စာချုပ်တွင်လက်မှတ် ရေးထိုးထားသည့်နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကိုပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကြေအလည် ညှိနှိုင်းဆွေးနွေး၍မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိ လူကြီးတစ်ဦးစီခန့်ထားပြီး အငြင်းပွားမှုများကိုပြေလည်အောင်ဖြေရှင်းပေးနိုင်ခွင့်ရှိစေရမည်။ အကယ်၍အဆိုပါ နှစ်ဦးနှစ်ဖက်တင်မြှောက်ထားသော ခုံသမာဓိလူကြီးများကအငြင်းပွားမှုကို ပြေလည်အောင်ဖြေရှင်းပေးခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိလူကြီးများသဘောတူသော ဒိုင်လူကြီးတစ်ဦးကိုရွေးချယ်ဆုံးဖြတ်စေရမည်။ ထိုခုံလူကြီးနှစ်ဦး (သို့)ဒိုင်လူကြီး၏အဆုံးအဖြတ်သည် အပြီးအပြတ်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံး လုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄) အရဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စု မြန်မာနိုင်ငံတွင်ဖြစ်ရပါမည်။ အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဘက်မှ ကျခံပေးဆောင်ရမည်။ **"အငှားချထားခြင်းခံရသူ"**က ဤစာချုပ်ပါစည်းကမ်းချက်များကိုဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန်ပျက်ကွက်လျှင် လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း **"အငှားချထားသူ"**က ချအပ်သောနို့တစ်စာပါကာလအတွင်း မဆောင်ရွက် နိုင်မှု (သို့မဟုတ်)မလိုက်နာမှုကိုပြင်ဆင်ပေးရန်ပျက်ကွက်လျှင်လည်းကောင်း၊ **"အငှားချထားသူ"**သည် **"အငှားစာချုပ်"**နှင့်သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးအပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာပြန်လည် ဝင်ရောက်၍လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ **"အငှားစာချုပ်"**သည် ရပ်စဲ၍ဆုံးခန်းတိုင်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့်အခွင့်အရေး များသည်ဤစာချုပ်ပါ **"အငှားချထားသူ"**က **"အငှားချထားခြင်းခံရသူ"**ထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကိုမထိခိုက်စေရ ။

**အကြောင်းကြားစာ**

၁၆။ ဤ **"အငှားစာချုပ်"**နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့်အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ (သို့မဟုတ်)တယ်လီဖုန်းဖြင့် ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ် ချုပ်ဆိုစဉ်ကလိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြားလိပ်စာဖြင့်သော် လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။ လိပ်စာများမှာ -

(က) **အငှားချထားသူ**

(၁) အမည် - ဒုတိယဗိုလ်မှူးကြီးမောင်မောင်အေး(ငြိမ်း)

(၂) ရာထူး - ဒါရိုက်တာ

(၃) လိပ်စာ - ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

(၄) ဖုံးအမှတ် - ၀၁၂၉၂၇၄၀

(၅) ဖက်စ်နံပါတ် - ၀၁၂၀၂၆၁၉

(ခ) **အငှားချထားခြင်းခံရသူ**

(၁) အမည် - ဦးညိုမင်းဦး

(၂) ရာထူး - မန်နေဂျင်းဒါရိုက်တာ

(၃) လိပ်စာ - Mercury Rays Manufacturing Co.,Ltd.

(၄) ဖုံးအမှတ် - ၇၂၁၄၀၇ , ၇၀၀၉၉၂

(၅) ဖက်စ်နံပါတ် - ၀၁၆၆၃၇၇၅

ယခုကဲ့သို့စာရွက်စာတမ်းများပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကိုလက်ခံရယူသည့်ဘက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း အကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စ ပြီးမြောက်ပြီးဖြစ်သည်ဟု အတည်ပြု နိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှလိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

**ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ**

၁၇။ ဤ **"ငှားရမ်းသဘောတူကာလ"**အတွင်း မမျှော်မှန်းဘဲ ငှားရမ်းမြေမှ ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများသည် **"အငှားချထားသူ"**နှင့်သာ သက်ဆိုင်စေမည်ဖြစ်ပြီး **"အငှားချထားသူ"** သည် သက်ဆိုင်ရာမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြားတင်ပြလွှဲပြောင်းခွင့်ရှိစေရမည်။ ထိုပစ္စည်းများကိုသ က်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော် ရယူခွင့်ရှိသည်။

**<u>စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း</u>**

၁၈။ **“အငှားစာချုပ်”** ချုပ်ဆိုပြီးအခြေအနေတစ်ရပ်ပေါ် ပေါက်၍ စာချုပ်ကိုပြင်ဆင်ရန် လိုအပ်ပါကနှစ်ဦးနှစ်ဖက်တို့ ညှိနှိုင်းသဘောတူကြမှသာ စာချုပ်၏အချက်အလက်နှင့် သတ်မှတ်ချက်များကို ပြင်ဆင်ရမည်။

**<u>ပတ်ဝန်းကျင်ကိုကာကွယ်ထိန်းသိမ်းခြင်း</u>**

၁၉။ ငှားချထားခြင်းခံရသူ”သည်ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန်တာဝန်ရှိသည်။ **“အငှားချထားခြင်းခံရသူ”**သည် လေ၊ ရေ မြေနှင့် သဘာဝပတ်ဝန်းကျင်ကိုထိန်းသိမ်း၍ လိုအပ်သောဆောင်ရွက်မှုများ၊ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝပတ်ဝန်းကျင်ကိုအကာအကွယ်ပေးရမည်။ ရေဆိုးများမရှိစေရန်နှင့်စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်စေရန် အစီအမံများပြုလုပ်ထားရမည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**<u>စာချုပ်၏တစ်စုတစ်ပိုင်းတည်းအစိတ်အပိုင်း</u>**

၂၀။ ဤ **“အငှားစာချုပ်”**ပါ ယင်း၏နောက်ဆက်တွဲများနှင့်တကွ မြေပုံတို့သည် ဤ **“အငှားစာချုပ်”** ၏ တစ်ပေါင်းတည်းအစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

**<u>ယခင်စာချုပ်များရုပ်စဲခြင်း</u>**

၂၁။ ဤ **“အငှားစာချုပ်”** ကိုလက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်နှင့် Mercury Rays Manufacturing Co.,Ltd. တို့ ယခင်ချုပ်ဆိုခဲ့သောအောက်ဖော်ပြပါစာချုပ်များသည် အလိုအလျောက်ရုပ်စဲသည်ဟုမှတ်ယူရမည် -

(က) ၁-၄-၁၉၉၉ ရက်နေ့တွင် လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သော မြေနှင့်အဆောက်အဦများ ငှားရမ်းခြင်း သဘောတူစာချုပ်၊

(ခ) ၁-၁-၂၀၀၃ ရက်နေ့တွင် လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သော မြေနှင့်အဆောက်အဦများငှားရမ်းခြင်း သဘောတူစာချုပ်၊

(ဂ) အထက်ပါစာချုပ်များအလိုအလျောက်ရုပ်စဲခဲ့သော်လည်း ၎င်းစာချုပ်များပါအရ - - ၂၀၀၇ ရက်နေ့ထိ **“အငှားချထားခြင်းခံရသူ”** မှ ပေးသွင်းရန်ကျန်ရှိနေသော မြေနှင့်အဆောက်အဦ ငှားရမ်းခများကို **“အငှားချထားသူ”** ထံသို့ မပျက်မကွက်ပေးသွင်းရမည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၂။ အထက်စာချုပ်ပါစည်းကမ်းချက်များကို နှစ်ဘက်ဖတ်ရှုပြီး၊ သိရှိသဘောပေါက်နားလည်လက်ခံကြပါသဖြင့် အောက်ပါသက်သေများရှေ့မှောက်တွင် ၂၀၀၇ ခုနှစ်၊ လ ( ) ရက်နေ့၌ တံဆိပ်များရိုက်နှိပ်၍ နှစ်ဘက်သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| **အငှားချထားသူ** | **အငှားချထားခြင်းခံရသူ** |
| --- | --- |
| ဒုတိယဗိုလ်မှူးကြီးမောင်မောင်အေး(ငြိမ်း) | ဦးညိုမင်းဦး |
| ဒါရိုက်တာ | မန်နေဂျင်းဒါရိုက်တာ |
| ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက် | Mercury Rays Manufacturing Co.,Ltd. |

**"အသိသက်သေများ"**

| | |
| --- | --- |
| ၁။ --------------------------------- | ၂။ --------------------------- |
| --------------------- | ---------------- |
| ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက် | Mercury Rays Manufacturing Co.,Ltd. |

Mercury Rays Manufacturing Co.,Ltd

လျှို့ဝှက်
၈၁

Tel : 638310, 638324, 721407
E-mail : mrm@mptmail.net.mm
nyo-kim@myanmar.com.mm

Plot-39, No. 3 Trunk Road,
Pyinmabin Industrial Zone,
Mingalardon Township, Yangon,
Myanmar.

| စဉ် | အဆောက်အဦအမှတ် | အဆောက်အဦးအနေအထား |
|---|---|---|
| 1 | A | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 2 | B | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 3 | C | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 4 | D | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 5 | E | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 6 | F | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 7 | G | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 8 | H | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 9 | I | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |
| 10 | J | သွပ်မိုး၊ အုတ်ကာ၊ ကွန်ကရစ်ခင်း |

Mercury Ray Manufacturing Co., Ltd. မှ ငှားရမ်းမည့် အဆောက်အအုံ

မြေ (၂.၄) ကေ (၉,၇၈၉စတုရန်းမီတာ) အနက်မှ (၃,၃၀၀ စတုရန်းမီတာ) ကိုသာ အသုံးပြုမည်ဖြစ်ပါသည်။

# Mercury Rays Manufacturing Co., Ltd.

## တည်နေရာပြမြေပုံ




Mercury Ray Manufacturing Co., Ltd. မှ ငှားရမ်းသည့် မြေနေရာ

မြေ (၂.၄) ဧက (၉,၇၈၉ စတုရန်းမီတာ) အနက်မှ (၃,၃၀၀ စတုရန်းမီတာ) ကိုသာ အသုံးပြုမည်ဖြစ်ပါသည်။


63.9 m
33.5m
ရိယာ 2144 Spm
33.5m
51.3m
ရိယာ 4345 Spm
53.4m
80 m
163.3 m
40 m
ရိယာ 3300 Spm
82.5 m
82.5 m
40 m

THE UNION OF MYANMAR ECONOMIC HOLDINGS LIMITED
ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်

UME HOLDINGS

Tel : 202617, 202618, 290843, 291738, 281179
Telex : UNIDOP 31760
Fax : 95-01-202619, 95-01-289563

No. 189/191, MAHABANDOOLA ROAD,
BOTATAUNG P.O. 11161
YANGON,
UNION OF MYANMAR.

*Reference No.* ဦးပိုင်/စီမံ - ထွေ/၂၀၀၇ ( ၀၆၆ )  *Date* ၂၀၀၇ ခုနှစ်၊ ဇွန်လ ( ၁၂ ) ရက်

သို့

ညွှန်ကြားရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် ၃၂ ၊ နေပြည်တော်။

အကြောင်းအရာ ။ ။ **မြေပိုင်ဆိုင်မှုအထောက်အထားပေးပို့ခြင်း**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၀၇ ရက်စွဲပါစာအမှတ် ရက-၆(က)/မ-၉၈၈/၂၀၀၇ (၂၄၅၆)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် တောင်းခံလာသော ပြည်ထောင်စု မြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ ရန်ကုန်တိုင်း၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုနယ်မြေ၏ မြေပိုင်ဆိုင်မှုနှင့်ပတ်သက်သော အထောက်အထားများကို ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

(signature)

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီးခင်မောင်ကြီး(ငြိမ်း)၊ ဒါရိုက်တာ

မိတ္တူ
- မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်
- ရုံးလက်ခံ




28 JAN 1994

## မြေငှားစာချုပ်

၁။ ဤမြေငှားစာချုပ်ကို ၁၉၉၃ ခုနှစ်၊ ဒီဇင်ဘာလ ( ၂၃ ) ရက် ( ၁၃၅၅ ခုနှစ်၊ နတ်တော်လဆန်း ( ၁၀ ) ရက် ) နေ့တွင်၊ မင်္ဂလာဒုံတောင်မြို့နယ်ပြည်ပင်သာယာရေး အဖွဲ့ ( နောက်တွင် '' အငှားချထားသူ '' ဟု ခေါ်တွင်သည် ) ( အငှားချထားသူဆိုသည့်စကားရပ်တွင် တောင်မြို့နယ်ပြည်ပင်သာယာရေး အဖွဲ့နှင့်ဤအဖွဲ့ကိုဆက်ခံသူများ၊ ထိုအဖွဲ့က လွှဲအပ်သူများလည်း ပါဝင်သည် ) နှင့် ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေး ဦးပိုင်လီမိတက် ( နောက်တွင် '' မြေငှားစာချုပ်ရသူ '' ဟု ခေါ်တွင်သည် ) တို့သည် <u>နောက်ဆက်တွဲ ( က )</u> အဖြစ် မိတ္တူပူးတွဲပါရှိသည့်၊ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး၏ ၇-၁၀-၉၂ ရက်စွဲပါစာအမှတ်၊ ၇၂၇/မသ-၂၅၅/ထောက် ဖြင့် ခွင့်ပြုချက်အရ ဤစာချုပ်ကို ချုပ်ဆိုကြသည်။

၂။ ဤစာချုပ်သည်၊ မင်္ဂလာဒုံတောင်မြို့နယ်ပြည်ပင်သာယာရေး နယ်နိမိတ်အတွင်း ရှိ <u>နောက်ဆက်တွဲ ( ခ )</u> အဖြစ် ပူးတွဲထားသည့် မြေပုံအရ အောက်ဖော်ပြပါတင် မြေ - ၆၄၇.၄၂ ဧကအား ၁-၄-၁၉၉၀ မှ ၃၁-၃-၂၀၂၀ ထိ နှစ် ( ၃၀ ) ဂရံဖြင့် ငှားရမ်းခြင်းအတွက် '' အငှားချထားသူ '' နှင့် '' မြေငှားစာချုပ်ရသူ '' တို့ နှစ်ဦးနှစ်ဘက်သဘောတူ ချုပ်ဆိုခြင်းဖြစ်သည်။

| ကွင်း | | ဦးပိုင်အမှတ် | မြေဧရိယာ | မှတ်ချက် |
|---|---|---|---|---|
| အမှတ် | အမည် | | ဧက ဒသမ | |
| ၅၂၈-အေ | ဂုံညင်းနီတောအရှေ့ကွင်း | ၂ | ၁၉၄.၇၁ | |
| ၅၂၉-ဘီ | ״ ״ ״ | ၁ | ၄၅.၀၃ | |
| ၅၂၉-စီ | ״ ״ ״ | ၄ | ၁၁၅.၆၅ | |
| ၅၂၉-အေ | | | | |
| ၅၂၉-ဘီ | ״ ״ ״ | ဝါးကျက်မြေ | ၂၉၂.၀၃ | |
| ၅၂၉-စီ | | | | |
| | | စုစုပေါင်း | ၆၄၇.၄၂ | |

၃။ အထက်ပါမြေငှားရမ်းခြင်းနှင့်ပတ်သက်၍ '' အငှားချထားသူ '' နှင့် '' မြေငှားစာချုပ်ရသူ '' တို့သည် အောက်ပါပဋိဉာဉ်ခံချက်များကို နှစ်ဦးနှစ်ဘက် သဘောတူညီကြသည်။

ပဋိဉာဉ်ခံချက်များ

(၁) ငှားရမ်းမြေ (၆၄၇.၆၂) ဧကအားနက်လက်ရှိစက်ရုံပုဂ္ဂလိကအဖြစ်အသီးသီး သတ်မှတ်ထားသော မြေဧရိယာအတွက်တစ်နှစ်လျှင်တစ်ဧက ၁၀၀၈/- ကျပ်နှုန်း ဖြင့်လည်းကောင်း၊ ကျန်မြေလွတ်မြေလပ်ဧရိယာအတွက်တစ်နှစ်လျှင်တစ်ဧက ၁၀၈/- ကျပ်နှုန်း ဖြင့်လည်းကောင်း "မြေငှားစာချုပ်ရသူ" က "အငှားချထားသူ" သို့ပေးရမည်။

(၂) ပဋိဉာဉ်ခံချက်အပိုဒ် (၁) ပါငှားရမ်းခများကိုဤစာချုပ်ပါငှားရမ်းမြေ (၆၄၇.၆၂) ဧကအားနက်စက်ရုံပုဂ္ဂလိကသတ်မှတ်ထားသည့်မြေများအတွက်စတင် သတ်မှတ်ထားသည့်နေ့မှစ၍တစ်နှစ်လျှင်တစ်ဧက ၁၀၀၈/- ကျပ်နှုန်း ဖြင့်လည်းကောင်း၊ ကျန်မြေများအတွက်တစ်နှစ်လျှင်တစ်ဧက ၁၀၈/- ကျပ်နှုန်း ဖြင့်လည်းကောင်း တွက်ချက်ရမည်။

(၃) မြေသုံးစွဲမှုပြောင်းလဲချက်နှင့်အညီ ပဋိဉာဉ်ခံချက်အပိုဒ် (၁) ပါငှားရမ်းခများကိုလည်း ပြင်ဆင်တွက်ချက်ရမည်။

(၄) မြေငှားရမ်းခကိုဘဏ္ဍာရေးနှစ်အလိုက်အနည်းဆုံး တစ်နှစ်အတွက်ကြိုတင်ပေးဆောင်ရမည်။ မြေသုံးစွဲမှုပြောင်းလဲချက်အရထပ်မံပေးချေရန်ရှိပါက ဘဏ္ဍာရေးနှစ်အလိုက်ထပ်မံတွက်ချက်ပေးချေရမည်။

(၅) ဤပဋိဉာဉ်စာချုပ်ပါမြေငှားရမ်းခြင်း သက်တမ်းသည်နှစ် (၃၀) ထိဖြစ်၍ (၅) နှစ်တစ်ကြိမ်နှစ်ဦးနှစ်ဘက်ပြန်လည်စိစစ်ခွင့်ရှိသည်။

(၆) ဤပဋိဉာဉ်စာချုပ်အရ၊ ငှားရမ်းထားသည့်မြေ၏မြေပေါ်မြေအောက်မှအကယ်၍ သယံဇာတပစ္စည်းများ တွေ့ရှိပါက "မြေငှားစာချုပ်ရသူ" နှင့်သက်ဆိုင်ခြင်း မရှိစေရ၊ "အငှားချထားသူ" နှင့်သာသက်ဆိုင်စေရမည်။

(၇) မြေငှားရမ်းခြင်းသက်တမ်းနှစ် (၃၀) ပြည့်မြောက်၍ဆက်လက်ငှားရမ်းလို သည်ဖြစ်စေ၊ သက်တမ်းမပြည့်မီ "မြေငှားစာချုပ်ရသူ" ကဆက်လက်အသုံးမပြု လိုတော့၍လျှင်ဖြစ်စေ မြေပြန်လည်အပ်နှံရေးအတွက် "အငှားချထားသူ" နှင့် သဘောညှိနှိုင်းရမည်။ ညှိနှိုင်းမှုကို (၆) လကြိုတင်ဆောင်ရွက်ရမည်။

(၈) ငှားရမ်းသည့်မြေပေါ်ရှိသစ်ပင်များ၊ နှစ်ရှည်သီးနှံပင်များ ခုတ်ထွင်ခြင်း၊ သဲ၊ ကျောက်၊ မြေသားတူးယူခြင်းစသည်များကို "အငှားချထားသူ" ထံစာ ဖြင့်အကြောင်းကြား၍ သဘောတူညီချက်ရယူပြီးမှ ဆောင်ရွက်ရမည်။

။ ဤစာချုပ်ပါ အပိုဒ် (၃) ပါပဋိဉာဉ်ခံချက်တစ်ရပ်ရပ်ကိုအကြောင်းပြု၍ ပွားများမှုတစ်စုံတစ် ရာပေါ်ပေါက်ပါက ပြေလည်အောင်ဖြေရှင်းနိုင်ခြင်းမရှိပါက ရှိတည်ဆဲဥပဒေများကိုလေး

နောက်ဆက်တွဲ(က)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ကာကွယ်ရေးဝန်ကြီးဌာန
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၇၂၇/မသ-၂၅၅/ထောက်
ရက်စွဲ၊ ၁၉၉၂ ခုနှစ်၊ အောက်တိုဘာလ ၈ ရက်

သို့

မန်နေဂျင်းဒါရိုက်တာ
ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

အကြောင်းအရာ။ <u>ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်သို့ မြေ ငှားရမ်းသုံးစွဲခွင့်ပြုခြင်း</u>

ရည်ညွှန်းချက်။ (၁) ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ ၅-၈-၉၂ ရက်စွဲပါစာအမှတ် ၄/၇/ပိုင်၂
(၂) ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ ၆-၈-၉၂ ရက်စွဲပါစာအမှတ် ၁/၇/ပိုင်၂

၁။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်မှ ရည်ညွှန်းချက်ပါစာများဖြင့် တပ်မတော်ပိုင် အောက်ဖော်ပြပါမြေနှင့် အဆောက်အဦးများအား ငှားရမ်းသုံးစွဲခွင့်ပြုရန် တင်ပြလာ၍ ဤရုံးမှ (၁-၁၀-၉၂) ရက်နေ့တွင် ကျင်းပသော (၂၅၈၀) ကြိမ်မြောက် ကာကွယ်ရေးဌာန၊ အဆောက်အဦ ကော်မီတီအစည်းအဝေးသို့ တင်ပြ အတည်ပြုချက်ရယူခဲ့ပြီး ဖြစ်ပါသည်-

(က) ရန်ကုန်မြို့ (၁၁)လမ်းနှင့် (၁၂)လမ်းကြား ဗိုလ်ချုပ်အောင်ဆန်းလမ်းမကြီး ပေါ်ရှိ ဗော်ဝင်နှင့်ယူဇနရုပ်ရှင်ရုံ တောင်းနေရာဖြစ်သော မြေဧရိယာ (၀.၂၆၄) ဧက။

(ခ) (၂၁)လမ်းရှိ ကောင်ဘာလေထီရုံးဝင်း တောင်းနေရာနှင့်ငင်းနှင့်တစ်ဆက်တည်းရှိ ရန်ကုန်ပြည်သူ့ဆေးရုံကြီးမှ လွှဲပြောင်းယူခဲ့သော အိမ်ထောင်သည်လိုင်း ကောင်းများနေရာ အပါအဝင် (၂.၅၀၉) ဧက။

(ဂ) အလုံမြို့နယ်ကမ်းနားလမ်းနှင့်သခင်မြပန်းခြံလမ်းထောင့်ရှိ ယခင် (ဟာဗီး) ခြံမြေဧရိယာ (၅.၆၈၃) ဧက။

၂/သို့-

၂။ အထက်ပါမြေများအား နှစ်(၃၀)ဂရံဖြင့် တစ်ဧကတစ်နှစ် ၄၀၀၀ိ/- (လေးထောင်ကျပ်) နှုန်းဖြင့် ရန်ကုန်တော်မြို့စည်ပင်သာယာရေးအဖွဲ့သို့ ပေးသွင်းရန်ဖြစ်ပါသည်။

၃။ ၎င်းပြင် မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်ကွင်းတပ်မတော်ပိုင်မြေ ဧရိယာ (၆၄၇.၄၂) ဧက၌ စက်ရုံဆောက်လုပ်ပြီးသောမြေနေရာများအား တစ်ဧကတစ်နှစ် ၁၀၀၀ိ/- (တစ်ထောင်ကျပ်တိတိ) နှုန်းဖြင့်၎င်း၊ မြေလွတ်နေရာအား တစ်ဧကတစ်နှစ် ၁၀၀ိ/- (တစ်ရာကျပ်တိတိ) နှုန်းဖြင့်၎င်း နှစ်(၃၀)ဂရံဖြင့် ငှားရမ်းသုံးစွဲခွင့်ပြုပါသည်။ ငှားရမ်းခကို စက်ရုံစတင်ဆောက်လုပ်သည့်နေ့မှစ၍ တွက်ချက်ပြီး ငှားရမ်းခများကို မင်္ဂလာဒုံတော်မြို့စည်ပင်သာယာရေးအဖွဲ့သို့ ပေးသွင်းရန် အကြောင်းကြားပါသည်။

စစ်ထောက်ချုပ် (ကိုယ်စား)

မိတ္တူကို

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)
ရန်ကုန်တိုင်းစစ်ဌာနချုပ်
ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
အတွင်းရေးမှူး၊ ရန်ကုန်တော်မြို့စည်ပင်သာယာရေးအဖွဲ့
အတွင်းရေးမှူး၊ မင်္ဂလာဒုံတော်မြို့စည်ပင်သာယာရေးအဖွဲ့

မြေဂရံများထုတ်ပေးရေး မြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်နှင့် တရားဝင်စာချုပ် ချုပ်ဆိုပြီး ဤရုံးသို့ စာချုပ်တစ်စုံ ပေးပို့ရန်။

# Mercury Rays Manufacturing Co.,Ltd

Tel : 638310, 638324, 721407
E-mail : mrm@mptmail.net.mm
nyo-kim@myanmar.com.mm

Plot-39, No. 3 Trunk Road,
Pyinmabin Industrial Zone,
Mingalardon Township, Yangon,
Myanmar.

MERCURY RAYS MANUFACTURING CO., LTD.
No ..........
Date ..........

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

ကျွန်တော်တို့၏ "မာကျူရီရေး(စ်)မင်နူရယ်ဖက်ချားရင်းကုမ္ပဏီလီမိတက်" အနေဖြင့် မီးဖိုချောင်သုံးပစ္စည်း(**Kitchen Wares**)အမျိုးမျိုး ထုတ်လုပ်သည့် စက်ရုံတည်ထောင်၍ **CMP** စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်း (**Kitchen Wares**)အမျိုးမျိုး ထုတ်လုပ် သည့်လုပ်ငန်းများကို ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် စက်ရုံအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ ရေအလုံအလောက်အသုံးပြုစေခြင်း၊ အမှိုက်ပုံများထားရှိခြင်း၊ စက်ရုံပတ်ဝန်းကျင်အားသန့်ရှင်းရေး လုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံအသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါ ကြောင်းဝန်ခံကတိပြုပါသည်။

ကျွန်တော်တို့၏ စက်ရုံသည် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံဖြစ်သဖြင့်ပတ်ဝန်းကျင်ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်း၊ အလုပ်သမားများအတွက် ကျန်းမာရေးဆေးခန်းထားရှိခြင်း၊ စွန့်ပစ်ပစ္စည်းများစနစ်တကျစွန့်ပစ်ခြင်းနှင့် စက်ရုံအတွင်းမှထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်ပါမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Nyo Min Oo
Managing Director
Mercury Rays Manufacturing Co., Ltd.

MERCURY RAYS **Mercury Rays Manufacturing Co.,Ltd**

Tel : 638310, 638324, 721407
E-mail : mrm@mptmail.net.mm
nyo-kim@myanmar.com.mm

Plot-39, No. 3 Trunk Road,
Pyinmabin Industrial Zone,
Mingalardon Township, Yangon,
Myanmar.

MERCURY RAYS MANUFACTURING CO., LTD.
No ..........
Date ..........

## မီးဘေးကြိုတင်ကာကွယ်မှုအထောက်အထားတင်ပြခြင်း

ကျွန်တော်တို့၏ "မာကျူရီရေး(စ်) မင်နူရယ်ဖက်ချားရင်း ကုမ္ပဏီလီမိတက်" အနေဖြင့် မီးဖိုချောင်သုံးပစ္စည်းအမျိုးမျိုး **(Kitchen Wares)** ထုတ်လုပ်သည့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားခြင်း ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီအနေဖြင့် မီးဖိုဆောင်သုံးပစ္စည်း **(Kitchen Wares)** အမျိုးမျိုး ထုတ်လုပ်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ (၂၀၀,၀၀၀)ဆန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။ စက်ရုံ အဆောက်အအုံမှာ လည်းမီးလောင်မှုမှကာကွယ်ရန် အုတ်ညှပ်(**B/N**)နှင့်သံထည်ပစ္စည်းများဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါ သည်။ စက်ရုံရှိနံရံများ တွင် မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါသည်။ ထို့ပြင်စက်ရုံတွင် မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များချမှတ်ထားပြီး၊ ယင်းတို့ကို ဝန်ထမ်းများတိကျစွာလိုက်နာဆောင်ရွက်ရန်လည်း စီမံထားရှိပါသည်။ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။ စက်ရုံအတွင်း နှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကိုတင်းကျပ်စွာ တားမြစ်ထားရှိခြင်းနှင့်လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Nyo Min Oo
Managing Director
Mercury Rays Manufacturing Co., Ltd.

မိတ္တူ

CO-OPERATIVE BANK LTD.

CO-OPERATIVE BANK LTD.

No 334/336, Corner of 23rd Street & Strand Road, Latha Township, Yangon 11142, Myanmar. Tel : (95-1) 372 641, 372 646, 372 655. Fax : (95-1) 240 147, 249 473
E-mail : cbbank@...
Website : www.cbbankmyanmar.com, www.cbbank.com.mm

CO-OPERATIVE BANK LTD H.O YANGON

Date - 26th April 2007

To

011 40 27085

MERCURY RAYS MANUFACTURING CO. LTD

Dear Sir

We hereby certify that the balance standing at the credit of the account of 011 40 27085- MERCURY RAYS MANUFACTURING CO. LTD with CO-OPERATIVE BANK LIMITED (H.O) YANGON at the close of business on the 25th April 2007 was Ks. 200,001,000.00 (Kyats- Two Hundred Million & One Thousand Only).

Yours Faithfully,

Asst/Dy :Manager

Asst: General Manager

Accounts Department

မိတ္တူ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

သက်တမ်းတိုး

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၁၅၉ / ၂၀×× ×× ။ ၂××၁၉၉၈ – ၁၉၉၉

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ မာကျူရီ ရေး (စ်) မင်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် အား ယနေ့တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီ လ ၆ ရက်နေ့တွင် မှတ်ပုံတင်ခွင့် ပြုလိုက်သည်။

( အောင်မျိုး )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL PRODUCTION

* * *

## THE GOVERNMENT OF THE UNION OF MYANMAR
## MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. 1159 of 1998–1999

I hereby certify that MERCURY RAYS MANUFACTURING COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this SIXTH day of JANUARY, ONE THOUSAND NINE HUNDRED AND NINETY NINE.

စက်ရုံအလုပ်ရုံတည်ရှိရာအရပ်သည် စက်မှုလက်မှုဇုံ တွင်ဖြစ်စေရမည်။ (သို့မဟုတ်) လူနေရပ်ကွက် နှင့်ကင်းလွတ်ရာအရပ်၌ဖြစ်စေရမည်။

(AUNG MYO)
Registrar of Joint Stock Companies
Companies Registration Office

*တန်/၁၇၆၀၅

**FORM VI**

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 27 th DAY of JANUARY 1999

on the of 19 of the * MERCURY RAYS MANUFACTURIN COMPANY LIMITED

Made pursuant to Section 104(1)

Number of the shares allotted payable in cash ...... 6000 shares

" " " " .....

Nominal amount of the shares so allotted ..... Ks.60,000,000/

" " " " .....

Amount paid or due and payable on each such share .... Ks.10,000/

" " " " ( FULLY PAID )

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ....

Amount to be treated as paid on each such share ....

The consideration for which such share have been allotted is as folllows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allot...

ယင်းဦး

Date

...y Rays Manufacturing Co., Ltd.

Managing Director

ကော်မရှင်၏ ၃၂/၂၀၀၇ အစည်းအဝေး

အကြောင်းအရာ။ ။ မာကျူရီရေး(စ်)မင်နျူဖက်ချားရင်းကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co.,Ltd )မှ CMP စနစ်ဖြင့် မီးဖိုဆောင်သုံးပစ္စည်း ( Kitchen Wares ) အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | -မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် (Mercury Rays Manufacturing Co.,Ltd ) (၆-၁၁-၁၉၉၉ နေ့တွင် မှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | -ဦးညိုမင်းဦး (အဘ-ဦးညိုမောင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | -CMP စနစ်ဖြင့် မီးဖိုဆောင်သုံးပစ္စည်း ( Kitchen Wares ) အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း။ |
| ၄။ | တည်နေရာ | -အကွက်အမှတ်(၃၉) ၊အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုနယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄၆၆.၁၂ သန်း |
| | -ငွေပမာဏ | ကျပ် ၅.၀၀ သန်း |
| | -စက်ပစ္စည်းကိရိယာ | ကျပ် ၄၃၆.၁၂ သန်း (ကျပ် ၈.၆၄ သန်းဖိုးဝယ်ယူပြီး) |
| | -အဆောက်အဦ(ပြုပြင်စရိတ်) | ကျပ် ၁၀.၀၀ သန်း (တည်ဆောက်ပြီး) |
| | -ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ကျပ် ၅.၀၀ သန်း (မဝယ်ရသေးပါ) |
| ၆။ | မြေအကြောင်းအရာ | |
| | -မြေအကျယ်အဝန်း | - (၂.၄)ဧက (၉၇၈၉ စတုရန်းမီတာ) |
| | -မြေပိုင်ဆိုင်မှု | -ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်ပိုင် မြေကို ကုမ္ပဏီမှ ငှားရမ်းအသုံးပြုမည် ဖြစ်ပါသည်။ |
| | -မြေအမျိုးအစား | -စက်မှုဇုန်မြေ |
| ၇။ | -အဆောက်အဦလိုအပ်ချက် | - (၁၃၂'× ၈၄') အုတ်ညှပ် (၁)ထပ် တစ်လုံး |
| ၈။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ခုရေ (ထောင်ပေါင်း) |
| | - Fry Pan | ၁၈၉၀ |
| | - Wok Pan | ၇၅၆ |
| | - Sauce Pot | ၁၈၉၀ |
| | - Buffet Casserole | ၃၇၈ |
| | - Bowl | ၇၅၆ |
| | - Steel Kettle | ၆၇၃၆ |
| | - Steel Steamer One body | ၃၇၈ |

| | | |
|---|---|---|
| | - Steel Steamer Two body | ၃၇၈ |
| | - Steel Food Carrier | ၁၁၃၄ |
| | - Steel Juice Presser | ၁၈၉ |
| | - Steel Vacuum Flask | ၃၀၂၄ |
| | - Steel Car Adaptor Flask | ၂၂၆၈ |
| ၉။ | ရောင်းချမည့်နည်းစနစ်<br>CMP စနစ်အရ (ပြည်ပ) | ၁၀၀ % |
| ၁၀။ | ဈေးကွက်ခိုင်မာမှုနှင့် သံရုံးသဘောထား | - မြန်မာနိုင်ငံရှိ Mercury Rays Manufacturing Co., Ltd. နှင့် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်မည့် ကိုရီးယား သမ္မတနိုင်ငံရှိ Daeho International Corp သည် တရားဝင် မှတ်ပုံတင် တည်ထောင် ထားကြောင်း Certificate of Business Registration နှင့် ကုမ္ပဏီ၏ Balance Sheet မိတ္တူများပူးတွဲ၍ ဆိုးလ် မြို့ရှိ မြန်မာသံရုံးမှ စိစစ်ပြန်ကြားလာပါသည်။ |
| ၁၁။ | CMP လက်ခနှုန်း(ပုံမှန်နှစ်) | (US$/ PCS) |
| | - Fry Pan | ၀.၅၅ |
| | - Wok Pan | ၀.၆၀ |
| | - Sauce Pot | ၀.၆၀ |
| | - Buffet Casserole | ၀.၂၀ |
| | - Bowl | ၀.၂၀ |
| | - Steel Kettle | ၀.၄၀ |
| | - Steel Steamer One body | ၀.၂၅ |
| | - Steel Steamer Two body | ၀.၂၅ |
| | - Steel Food Carrier | ၀.၆၅ |
| | - Steel Juice Presser | ၀.၂၀ |
| | - Steel Vacuum Flask | ၀.၃၀ |
| | - Steel Car Adaptor Flask | ၀.၃၀ |
| ၁၂။ | ဝင်ငွေ(ပုံမှန်နှစ်)<br>- နိုင်ငံခြားငွေဖြင့် | US$ ၈.၁၀ သန်း |
| ၁၃။ | အသားတင်အမြတ်(ပုံမှန်နှစ်)<br>- နိုင်ငံခြားငွေဖြင့် | US$ ၆.၂၀ သန်း |

| | | |
|---|---|---|
| ၁၄။ | နိုင်ငံတော်မှပုံမှန်နှစ်တွင်<br>ရရှိမည့်အကျိုးအမြတ်<br>-ဝင်ငွေခွန်<br>- CMP လက်ခရငွေအပေါ်<br>၁၀ %အခွန်ဖြတ်တောက်ရရှိမှု | <br><br>US$ ၁.၀၉ သန်း<br>US$ ၀.၈၁ သန်း |
| ၁၅။ | လုပ်သားအင်အား<br>-ပြည်တွင်း<br>-ပြည်ပ | ၂၅၄ ဦး<br>၂၅၀ ဦး<br>၄ ဦး (အချိန်ပိုင်း) |
| ၁၆။ | စက်ပစ္စည်းများဝယ်ယူမှုနှင့်<br>ငွေကြေးခိုင်မာမှု<br>အထောက်အထား | -ကျပ်(၈.၆၄)သန်း တန်ဘိုးရှိ စက်ပစ္စည်းများကို ပြည်တွင်းရှိ သိဒ္ဓိစံကုမ္ပဏီလီမိတက်ထံမှဝယ်ယူထားကြောင်းနှင့်၊သိဒ္ဓိစံကုမ္ပဏီလီမိတက်အမည်ဖြင့်ပြည်ပမှတင်သွင်းထားသည့် ID,IL များတင်ပြထားပါသည်။ ကျန် ကျပ်(၄၂၇.၄၈)သန်းတန်ဘိုး ရှိစက်ပစ္စည်းများကို ထွန်းသစ်စနေမင်း အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက် ထံမှ ဝယ်ယူမည်ဖြစ်ကြောင်းအရောင်းအဝယ်စာချုပ်တင်ပြထားပါသည်။ထွန်းသစ်စနေမင်းကုမ္ပဏီသည် ကိုရီးယားသမ္မတနိုင်ငံ Daeho International Corp မှ ဝယ်ယူမည်ဖြစ်ကြောင်း Supplier's invoice နှင့် ကုမ္ပဏီ၏ ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ (၁၉-၃-၂၀၀၇)ရက်နေ့ငွေလက်ကျန် US$(၃၀၀၇၂၅.၆၄) တင်ပြထားပါသည်။<br>-အဆိုပြုလွှာတင်ပြစဉ်က ငွေကြေး အထောက်အထားအဖြစ် မာကျူရီရေး(စ်) မင်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် အမည်ဖြင့်သမဝါယမဘဏ် လီမိတက် ရှိ (၂၅-၄-၂၀၀၇)ရက်နေ့ လက်ကျန်ငွေ ကျပ်(၂၀၀.၀၀၁)သန်း တင်ပြထားရာ ပြည်တွင်းသုံးစွဲငွေကျပ် (၄၄၇.၄၈)သန်း၏ (၄၅ %) တင်ပြ ထားပါသည်။ |
| ၁၇။ | သက်ဆိုင်ရာဝန်ကြီးဌာနများမှ<br>သဘောထားမှတ်ချက် | -အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှလုပ်ငန်းအတွက် လိုအပ်သောလျှပ်စစ်ဓါတ်အား ကို ဖြန့်ဖြူး ပေးနိုင်ပါကြောင်း သဘောထားပြန်ကြား လာပါသည်။(ပူးတွဲ)<br>-အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ Mercury Rays Manufacturing Co., Ltd. အနေဖြင့် ကုန်ချောပစ္စည်းများအားလုံး နီးပါး ပြည်ပသို့ တင်ပို့ရောင်းချလျှင်ကန့်ကွက်ရန်မရှိပါကြောင်း နှင့် Reject ကို ပြည်တွင်း |

| | | |
|---|---|---|
| | | ၎င်းပြန်လည်ရောင်းချလျှင် Food Grade ဖြစ်ရန်လိုကြောင်း သဘောထား ပြန်ကြားထားပါသည်။(ပူးတွဲ)<br>-စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန မှအဆိုပါ ကုမ္ပဏီ၏ကုန်ကြမ်းပစ္စည်းတင်သွင်းခြင်းနှင့် ကုန်ချောပစ္စည်းများ ပြန်လည်တင်ပို့ခြင်း နှင့်ပတ်သက်၍ ကုန်သွယ်ရေးရှုထောင့်မှ ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။(ပူးတွဲ)<br>-စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန ၊ကုန်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနမှ စက်ရောင်းသူ သိဒ္ဓိစံ ကုမ္ပဏီလီမိတက် မှ စက်ပစ္စည်းများကို ပို့ကုန်ရငွေ Normal L/C (EXE) ဖြင့်တင်သွင်းခဲ့ကြောင်း၊သဘောထား ပြန်ကြားထားပါသည်။(ပူးတွဲ)<br>-အကောက်ခွန်ဦးစီးဌာနမှ သိဒ္ဓိစံကုမ္ပဏီလီမိတက်မှတင်သွင်းခဲ့သည့် စက်ပစ္စည်းများအတွက် သွင်းကုန်ခွန် ကျပ် (၅၂၅၁၂.၅၀) နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၈၈၉၄၀၇) တို့ ပေးဆောင်ခဲ့ကြောင်း သဘော ထား ပြန်ကြားထားပါသည်။(ပူးတွဲ) |
| ၁၈။ | ကတိဝန်ခံချက်များ | -ယင်းလုပ်ငန်း သည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြား မှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊<br>-မြေယာနှင့်ပတ်သက်၍နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည် ဖြစ်ကြောင်း၊<br>-ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်လိုအပ်သောအစီအမံများ၊ပြုလုပ်ထားမည်ဖြစ်ကြောင်း၊<br>-လုပ်ငန်းအသစ်ဖြစ်ကြောင်း၊<br>-CMP လုပ်ငန်း ဆောင်ရွက်မှု အတွက် ရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိကုမ္ပဏီ၏ ငွေစာရင်းသို့မပျက်မကွက်ပေးသွင်းမည် ဖြစ်ကြောင်း၊<br>-လုပ်ငန်းအတွက် ကုန်ပစ္စည်းများတင်သွင်း/တင်ပို့ရာတွင် ရေကြောင်းခရီး /လေကြောင်းခရီး တို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ |

| | | |
|---|---|---|
| ၁၈။ | အခြား | -ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရစက်မှု ကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှုညွှန်ကြားရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊<br>-စက်ပစ္စည်းများမှာ ပြည်တွင်းမှဝယ်ယူမည်ဖြစ်ပြီး အသစ်ဖြစ်ကြောင်း၊<br>-လုပ်ငန်းဆောင်ရွက်ခြင်းဖြင့်ပြည်တွင်းအလုပ်သမား(၂၅၀)ဦး အလုပ်အကိုင်ရရှိပြီး၊အလုပ်ချိန်မှာတစ်ရက်(၈)နာရီ(၃)ဆိုင်းဖြစ်ပါကြောင်း၊ နိုင်ငံခြားပညာရှင်(၄)ဦးကို (၃လ မှ၆ လအထိ) အချိန်ပိုင်းခန့်ထားမည်ဖြစ်ပြီးၤင်းတို့အတွက်စရိတ်ကို CMP Order ပေးသော ကိုရီးယားနိုင်ငံ Daeho International Corp မှကျခံမည်ဖြစ်ပါကြောင်း၊ စက်ရုံအလုပ်သမားများနှင့်ရုံးဝန်ထမ်းများအတွက် (၂၅'× ၄၀') စားသောက်ခန်းမကိုစီစဉ်ထားပါကြောင်း၊အလုပ်သမားများအတွက်ရေအိမ်(၆)လုံး၊ ရုံးဝန်ထမ်းများအတွက် ရေအိမ်(၂)လုံး စီစဉ်ထားပါကြောင်း ကုမ္ပဏီမှ ရှင်းလင်းတင်ပြထားပါသည်။<br>-စက်ပစ္စည်း၊ကုန်ကြမ်းနှင့် ထုတ်လုပ်မှု စံနှုန်းစာရင်းများကိုပူးတွဲတင်ပြထား ပါသည်။<br>-ယခုအဆိုပြုတင်ပြသည့်လုပ်ငန်း (၁) ခုသာရှိပါသည်။ |
| ၁၉။ | အခွန်ကင်းလွတ်ခွင့်/<br>သက်သာခွင့် | -ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရမည် ဖြစ်ပါသည်။ |



Mercury

ဒါရိုက်တာ နှင့် အစုရှင် များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မာကျူရီရေး(စ်) မင်းချုဖက်ချားရင်း ကုမ္ပဏီလီမိတက် | ၁။ ဦးညိုမင်းဦး (မန်နေးဂျင်းဒါရိုက်တာ)<br>၂။ ဒေါ်တင်တင်နွယ် (ဒါရိုက်တာ)<br>၃။ ဦးသန်းနိုင်ဦး (ဒါရိုက်တာ)<br>၄။ ဒေါ်ဝင့်မာတင် (ဒါရိုက်တာ) | အမှတ်(၄၄)၊ ဗဟန်း(၂)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>အမှတ်(၄၄)၊ ဗဟန်း(၂)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>အမှတ်(၆၈၀/၆၉၄)၊ အထက်ပုဇွန်တောင် လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်။<br>အမှတ်(၂၇)၊ ရေကျော် လမ်း၊ ပုဇွန်တောင် မြို့နယ်၊ ရန်ကုန်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၉/၁၈(၁)/၂၀၀၇ (၇၀၈၉)
ရက် စွဲ၊ ၂၀၀၇ ခုနှစ် ဩဂုတ်လ ၉ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ ခုနှစ် မေလ ၂၈ ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၈၈/၂၀၀၇(၂၃၀၁)

၁။ Mercury Rays MFG Co.,Ltd မှ CMP စနစ်ဖြင့် မီးဖိုချောင်သုံးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါအဆိုပြုလွှာနှင့်ပတ်သက်သောအချက်အလက်များကို စိစစ်ရာ အောက်ဖော်ပြပါအတိုင်း တွေ့ရှိရပါသည်-

(က) Stainless Steel ဖြင့်ထုတ်လုပ်သော ကုန်ချောပစ္စည်း(၇)မျိုးနှင့် Aluminium ဖြင့်ထုတ်လုပ်သော ကုန်ချောပစ္စည်း(၅)မျိုးအတွက် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ခ) Stainless Steel ထုတ်လုပ်မည့် စက်ပစ္စည်း(၁၂)မျိုးနှင့် ဓါတ်ဘူးထုတ်လုပ်မည့် စက်ပစ္စည်း(၁၅၁)မျိုးကို Mercury Rays MFG ကုမ္ပဏီက ထွန်းသစ္စနေမင်း ကုမ္ပဏီမှတစ်ဆင့် ဝယ်ယူခဲ့ရာတွင် အမေရိကန်တစ်ဒေါ်လာလျှင် ကျပ် ၁၃၀၀ နှုန်းတန်ဖိုးသင့်ထားကြောင်း တွေ့ရှိရပါသည်။ ကုန်ချောမှာပြည်ပသို့ CMP စနစ်ဖြင့်တင်ပို့မည့် ပစ္စည်းဖြစ်သဖြင့် ဈေးနှုန်းစိစစ်နိုင်ခြင်းမရှိသော်လည်း CMP လုပ်ခနှုန်းထားမှာ သင့်တင့်ကြောင်း စိစစ်တွေ့ရှိပါသည်။

(ဂ) စက်အသီးသီး၏ (၈)နာရီတစ်ဆိုင်းလျှင် ထုတ်လုပ်နိုင်သည့်အရေအတွက်အရ အခြေပြုစိစစ်ရာတွင် နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားညီမျှမှုရှိကြောင်း တွေ့ရှိရပါသည်။

